Hantharwady Development Public Co., Ltd. မှ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ် ၂၄၅၄.၉၈ ဧကတွင်

**စက်မှုဥယျာဉ်ဖော်ထုတ်ခြင်းနှင့်ငှားရမ်းခြင်းလုပ်ငန်းအား ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၄-၁-၂၀၁၆ | | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | - | ၁၄-၁-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၇-၂-၂၀၁၆ | ၇-၃-၂၀၁၆ | |
| | (ဂ) ဆောက်လုပ်ရေးဝန်ကြီးဌာန | ၁၇-၂-၂၀၁၆ | ၁၄-၃-၂၀၁၆ | |
| | (ဃ) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန | ၁၇-၂-၂၀၁၆ | ၂၅-၂-၂၀၁၆ | |
| | (င) ပို့ဆောင်ရေးဝန်ကြီးဌာန | ၁၇-၂-၂၀၁၆ | ၁-၃-၂၀၁၆ | |
| | (စ) စက်မှုဝန်ကြီးဌာန | ၁၇-၂-၂၀၁၆ | ၂၅-၂-၂၀ ၁၆ | |
| ၃။ | PAT အစည်းအဝေး (၅/ ၂၀၁၆) (၁-၂-၂၀၁၆)သို့ တင်ပြခြင်း | ၁-၂-၂၀၁၆ | | |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၉-၂-၂၀၁၆ | | |
| ၅။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ဝန်ခံကတိပြုခြင်း | - | | |
| ၆။ | ကုမ္ပဏီမှအဆိုပြုလွှာ(ဇ)ကို ပြန်လည်ပေးပို့ခြင်း | ၂၂-၃-၂၀၁၆ | | |
| ၇။ | PAT အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပြင်ဆင်တင်ပြခြင်း | ၂၆-၂-၂၀၁၆ | | |
| ၈။ | ကော်မရှင်အစည်းအဝေးသို့ ပထမအကြိမ် တင်ပြခဲ့သည့် အကြိမ်/နေ့ရက် စုစုပေါင်းကြာမြင့်ရက် | (၁၁/ ၂၀၁၆) (၂၅-၃-၂၀၁၆) ၆၈ ရက် | | |
| ၉။ | အဆိုပြုချက်အားပြန်လည်ပေးပို့ခြင်း | ၃၀-၃-၂၀၁၆ | | |
| ၁၀။ | ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ပြန်လည်တင်ပြခြင်း | ၂၄-၂-၂၀၁၇ | | |
| ၁၁။ | ကော်မရှင်အစည်းအဝေးသို့ ဒုတိယအကြိမ် တင်ပြခဲ့သည့် အကြိမ်/နေ့ရက် | (၅/ ၂၀၁၇) (၉-၅-၂၀၁၇) | | |
| ၁၂။ | ကော်မရှင်၏ ဆုံးဖြတ်ချက် ပေးပို့ခြင်း | ၇-၄-၂၀၁၇ | | |
| ၁၃။ | ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ပြန်လည် တင်ပြခြင်း | ၈-၅-၂၀၁၇ | | |
| ၁၄။ | ကော်မရှင်အစည်းအဝေးသို့ ထပ်မံတင်ပြမည့် အကြိမ်/ နေ့ရက် | (၈/ ၂၀၁၇) ၁၂-၅-၂၀၁၇ | | |

ကုမ္ပဏီအမည် - Hantharwady Development Public Co., Ltd.
အဖွဲ့အစည်းပုံသဏ္ဌာန် - အများပိုင်ကုမ္ပဏီ (Public Company ဖြစ်ပါသည်။)
လုပ်ငန်းအမျိုးအစား - စက်မှုဥယျာဉ်ဖော်ထုတ်ခြင်းနှင့်ငှားရမ်းခြင်းလုပ်ငန်း
တည်နေရာ - ပဲခူးတိုင်းဒေသကြီး၊ ပဲခူးခရိုင်၊ ပဲခူးမြို့နယ်၊ ကော့ချဲ၊ မှော်လုံ၊ သာယာကုန်း၊ လသာကုန်း၊ လသာအေး၊ အင်းတကော်၊ ဘုရားငုတ်တို၊ သာယာကုန်းကျေးရွာအုပ်စုရှိမြေဧရိယာ ၂၄၅၄.၉၈ ဧက
စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၂၂၂၅၄၅.၄၅သန်း
လုပ်ငန်းသက်တမ်း - ၃၀ နှစ်
အရင်းကြေကာလ - ၁၅ နှစ် နှင့် ၆ လ
IRR - ၇.၆၄ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကိုအောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀၀ (၁ နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၃၀၉၆.၀၀ | |
| ၄ | ဝင်ငွေခွန် | ၃၀၆၀.၀၀ | ၆၅၀၀.၀၀ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၄၀၆၈.၀၀ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၁၀၀.၂၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၁၀၆၈.၀၀ |
| ၈ | CSR (၂%) | | ၃၆၂.၄၂ |
| | | | ပြည်တွင်းဝန်ထမ်း (၆၂)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| ၁၀ | **စုစုပေါင်း** | ၆၁၅၉.၀၀ | ၁၅၆၉၈.၆၂ |
| | Cost : Benefit | ၁ : ၃ | |

**Hantharwady Development Public Co., Ltd. မှ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်မြေဧရိယာ ၂၄၅၄.၉၈ဧကတွင် စက်မှုဥယျာဉ်ဖော်ထုတ်ခြင်းနှင့် ငှားရမ်းခြင်းလုပ်ငန်းဆောင်ရွက်ခွင့်နှင့်စပ်လျဉ်းသည့် အဓိကအချက်များ**

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ကမကထပြုသူ | - | Hantharwady Development Public Co., Ltd.<br>ဦးခင်မောင်လွင် (အဘ-ဦးလွင်)၊ဒါရိုက်တာ |
| ၂။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| ၃။ | ဖွဲ့စည်းမှုပုံစံ | - | အများပိုင်ကုမ္ပဏီ (Public Company ဖြစ်ပါသည်) |
| ၄။ | တည်နေရာ | - | ပဲခူးတိုင်းဒေသကြီး၊ ပဲခူးခရိုင်၊ ပဲခူးမြို့နယ်၊ ကေ့ချဲ၊ မှော်လုံ၊ သာယာကုန်း၊ လသာကုန်း၊ လသာအေး၊ အင်းတကော်၊ ဘုရားငုတ်တို၊ သာယာကုန်းကျေးရွာအုပ်စုများရှိမြေဧရိယာ ၂၄၅၄.၉၈ ဧက |
| ၅။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - | **စက်မှုဥယျာဉ်ဖော်ထုတ်ခြင်းနှင့် ငှားရမ်းခြင်းလုပ်ငန်း** |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | | ကျပ်-(သန်း)<br>ငွေသား - ၁၀၀၀.၀၀<br>Construction Cost - ၂၂၁၅၄၅.၄၅<br>စုစုပေါင်း ၂၂၂၅၄၅.၄၅ |
| ၇။ | တည်ဆောက်ရေးကာလ | - | ၆ နှစ် |
| ၈။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - | ၅၀ နှစ် |
| ၉။ | ဝန်ဆောင်နိုင်မှု(၆ နှစ်မြောက်) | - | |

| စဉ် | ဖော်ထုတ်မည့်မြေအမျိုးအစား | ဖော်ထုတ်မည့် ဧရိယာ (ဧက) | | | ဖော်ထုတ်မည့် ဧရိယာ (အကွက်) | | |
|---|---|---|---|---|---|---|---|
| | | Phase I | Phase II | Phase III | Phase I | Phase II | Phase III |
| (၁) | First Category Residential Area | - | - | ၄၂.၃၀ | - | - | ၄၄၀ |
| (၂) | Second Category Residential Area | - | - | ၅၇.၂၆ | - | - | ၁၁၁ |
| (၃) | Third Category Residential Area | ၉၂.၆၀ | - | ၅၉.၁၆ | ၅၁ | - | ၈ |
| (၄) | Commercial Establishments | ၂၂.၁၂ | ၂၈.၃၂ | ၁၈.၄၉ | ၁ | ၂ | ၁ |
| (၅) | Commercial Service | ၁၅.၂၂ | ၁၂.၈၀ | ၅၅.၈၀ | ၁ | ၁ | ၁ |
| (၆) | Light Industry | ၂၀၂.၇၅ | ၁၉၅.၀၈ | ၁၆၇.၆၅ | ၄၃ | ၃၂ | ၃၅ |
| (၇) | High-Technology Industry | ၁၈၇.၇၅ | ၁၅၀.၃၈ | ၁၇၆.၃၅ | ၄၀ | ၃၂ | ၃၆ |
| (၈) | First Class of Logistics | ၁၉.၃၆ | ၂၆.၀၃ | ၂၅.၈၀ | ၁ | ၁ | ၆ |
| (၉) | Second Class of Logistics | ၁၀.၉၈ | ၂၀.၁၄ | ၁၂.၄၄ | ၁ | ၁ | ၄ |
| (၁၀) | Administrative and Services | ၅.၆၂ | ၃.၈၀ | ၂.၄၈ | ၁ | ၁ | ၁ |
| (၁၁) | Administrative Area | ၂.၉၃ | ၄.၆၃ | ၂.၆၁ | ၁ | ၁ | ၁ |
| (၁၂) | Educational Institution | ၃.၅၈ | ၃.၄၃ | ၁.၉၉ | ၁ | ၁ | ၁ |
| (၁၃) | Medical | ၅.၆၃ | ၃.၅၃ | ၈.၃၁ | ၁ | ၁ | ၁ |
| (၁၄) | Fire Station | ၈.၆၇ | ၁၂.၅၂ | ၅.၂၇ | ၁ | ၁ | ၁ |
| (၁၅) | Bus Station | ၂၈.၉၉ | - | ၁၂.၆၂ | ၁ | - | ၁ |

| | | | | | | | |
|---|---|---|---|---|---|---|---|
| (၁၆) | Road | ၂၁၄.၉၂ | ၁၂၅.၁၁ | ၁၆၆.၀၉ | - | - | - |
| (၁၇) | Green Space | ၄၁.၈၆ | ၅၅.၆၆ | ၂၅.၁၂ | - | - | - |
| (၁၈) | Water Area | ၁၈.၁၇ | ၁၈.၅၄ | ၃၉.၇၉ | - | - | - |
| (၁၉) | Water Treatment Plant | ၃.၁၉ | ၃.၂၁ | ၃.၂၁ | ၁ | ၁ | ၁ |
| (၂၀) | Sub Station | ၇.၉၂ | ၇.၉၂ | ၇.၈၈ | ၁ | ၁ | ၁ |
| | စုစုပေါင်း | ၈၉၂.၂၆ | ၆၇၂.၁၀ | ၈၉၀.၆၂ | ၁၄၆ | ၇၆ | ၆၅၀ |
| | Waste Area | ၂၈၁.၀၅ | ၂၀၅.၄၁ | ၁၆၂.၇၀ | | | |
| | Used Area | ၆၁၁.၂၁ | ၄၆၆.၆၉ | ၇၂၇.၉၂ | | | |

**အပိုင်း(၁)ပိုင်းလျှင် (၂)နှစ်ဖြင့် အပိုင်း(၃)ပိုင်းအား တည်ဆောက်ရေးကာလ (၆) နှစ် အတွင်း အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။**

စုစုပေါင်းဖော်ထုတ်မည့်မြေ ဧရိယာ၂၄၅၄.၉၈ဧကအနက် Used Area ၁၈၀၅.၈၂ ဧက(Plot ၈၇၂ ကွက်)အားတစ်စတုရန်းမီတာ=ကျပ် ၂၈၈၀ နှုန်းဖြင့် ငှားရမ်းခ ဝင်ငွေများရရှိမည်ဖြစ်ပါသည်။

| | | | |
|---|---|---|---|
| ၁၀။ | ဝန်ထမ်းအင်အား(ပထမနှစ်) | - | ၆၇ဦး |
| | -ပြည်တွင်း | - | ၆၇ ဦး (ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ နှင့်အမြင့်ဆုံး လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။) |
| | -ပြည်ပ | - | မရှိပါ |
| ၁၁။ | ဝင်ငွေ (၆ နှစ်မြောက်) | - | ကျပ် ၂၂၀၉၉.၀၉သန်း |
| ၁၂။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (၆ နှစ်မြောက်) | | |
| | - ဝင်ငွေခွန် | - | ကျပ် ၃၈၉၃.၁၅ သန်း |
| | - ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၁၀၁၀.၆၁ သန်း |
| ၁၃။ | အရင်းကြေကာလ | - | ၁၅ နှစ် နှင့် ၆ လ |
| ၁၄။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - | ၇.၆၄ % |
| ၁၅။ | CSRထည့်ဝင်မှု | - | နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ % အားသုံးစွဲမည်ဖြစ်ပါသည်။ |
| ၁၆။ | ငွေကြေးအထောက်အထား | - | ငွေကြေးအထောက်အထားအဖြစ် Hantharwady Development Public Co., Ltd.အမည်ဖြင့် CB Bank Ltdတွင် (၅-၅-၂၀၁၅) ရက်စွဲဖြင့် ကျပ် ၁၂၆၁၂၅၂၆၈.၀၀ရှိကြောင်းတင်ပြထားပါသည်။ချေးငွေ အဖြစ် ကျပ် ၁၀ ဘီလီယံကို CB Bank Ltd.မှ ချေးယူမည် ဖြစ်ကြောင်းတင်ပြထားပါသည်။ |
| ၁၇။ | အခြားတင်ပြချက်များ | - | ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှအဆိုပြုလုပ်ငန်းအားမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်းသဘောထားပြန်ကြားထားပါသည်။ |
| | | - | စီမံကိန်းအတွက် မြေများမှာကုမ္ပဏီမှ ဝယ်ယူထားသောမြေများဖြစ်ပြီးမြေ အထောက်အထားအဖြစ် ပုံစံ၁၅(က)ရရှိပြီးဖြစ်ပါကြောင်းနှင့် ၄င်းမြေနေရာတွင် ပဲခူးစက်မှုမြို့ တော်စီမံကိန်း လုပ်ငန်းဆောင်ရွက်ရန်အတွက် Concept Planကို ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ တင်ပြခဲ့ပြီး ၄င်းတို့မှ ဆက်လက်တင်ပြချက် အရ ပြည်ထောင်စုအစိုးရအဖွဲ့မှ ခေါ်ယူဆွေးနွေးခဲ့ပါကြောင်းတင်ပြထားပါသည်။ |

- နိုင်ငံခြားရင်းနှီးမြှုပ်နှံသူများအတွက် ဆွဲဆောင်မှုပိုမိုကောင်းမွန်စေရန် ရည်ရွယ်၍ မြေနေရာပြုပြင်ခြင်းနှင့် မြေကွက်ဖော်ထုတ်ခြင်းလုပ်ငန်းများကိုလမ်း၊ ရေ၊ မီး၊ ဆက်သွယ်ရေး၊ စိမ်းလန်းစိုပြေရေးတို့ကိုပထမအဆင့်နေဖြင့် ဆောင်ရွက်သွားမည်ဖြစ်ပြီး ဒုတိယအဆင့်အနေဖြင့် ဆွဲဆောင်မှုရှိချိန်တွင် နိုင်ငံခြားရင်းနှီးမြှုပ်နှံသူများနှင့် ဆက်လက်ပူးပေါင်း ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်းတင်ပြထားပါသည်။
- အဆိုပြုစီမံကိန်းအတွက် လိုအပ်သည့် လျှပ်စစ်ဓါတ်အား၁၅၀မဂ္ဂါဝပ် လိုအပ်မည်ဖြစ်ပြီးသက်ဆိုင်ရာ လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာနနှင့် ဆက်သွယ်ညှိနှိုင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် လိုအပ်သည့် Transformer များထားရှိ ဆောင်ရွက် သွားမည်ဖြစ်ပါကြောင်းနှင့် မီးဘေးအန္တရာယ်ကြိုတင် ကာကွယ်တားဆီးရေးစီမံချက်၊ EMPအစီအစဉ်များ တင်ပြထားပါသည်။
- အဆိုပါစီမံကိန်းတွင်ဖော်ထုတ်မည့် စုစုပေါင်းမြေ ၂၄၅၄.၉၈ ဧကအား တည်ဆောက် ရေးကာလ ၆ နှစ်အတွင်းအပိုင်း ၁ ပိုင်း လျှင် ၂ နှစ်ဖြင့် အပိုင်း ၃ပိုင်းကို အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ တည်ဆောက်ရေးကာလ ပထမ နှစ်နှင့် ဒုတိယနှစ်တွင် အပိုင်း(၁)အဖြစ် ၈၉၈.၀၈ဧကကို ဖော်ထုတ်မည်ဖြစ်ပါကြောင်း၊ တည်ဆောက်ရေးကာလ တတိယနှစ်နှင့် စတုတ္ထနှစ်တွင် အပိုင်း(၂)အဖြစ် ၆၇၈.၂၀ဧကကို ဖော်ထုတ်မည်ဖြစ်ပါကြောင်း၊ တည်ဆောက်ရေးကာလပဉ္စမနှစ်နှင့် ဆဋ္ဌမနှစ်တွင် အပိုင်း(၃)အဖြစ် ၈၇၈.၇၀ဧကကို ဖော်ထုတ်မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက- ၄/မ-၁၅၂၄/၂၀၁၇( ၃၉၅ )

ရက်စွဲ ၂၀၁၇ ခုနှစ် မေ လ ၁၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Hantharwady Development Public Co., Ltd.မှပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်ရှိမြေ၂၄၅၄.၉၈ ဧကတွင် စက်မှုဥယျာဉ်ဖော်ထုတ်ခြင်းနှင့်ငှားရမ်းခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ Hantharwady Development Public Co., Ltd. မှ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးခရိုင်၊ ပဲခူးမြို့နယ်၊ ကော့ချဲ၊ မှော်လုံ၊ သာယာကုန်း၊ လသာကုန်း၊ လသာအေး၊ အင်းတကော်၊ ဘုရား ငုတ်တို၊ သာယာကုန်း ကျေးရွာအုပ်စု ရှိမြေဧရိယာ ၂၄၅၄.၉၈ ဧကတွင် ပဲခူးစက်မှုမြို့တော်တည်ဆောက်ခြင်း အတွက် စက်မှုဥယျာဉ်ဖော်ထုတ်ခြင်းနှင့် ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးခင်မောင်လွင်မှ ပဲခူးတိုင်းဒေသကြီးအစိုးရ အဖွဲ့မှတစ်ဆင့်အဆိုပြုချက်တင်ပြလာခြင်းကို ၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၁ ရက်နေ့တွင် ကျင်းပ သည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၅/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပြုလုပ်ငန်းသည် ယခင်အစိုးရလက်ထက်က ပြည်ထောင်စုအစိုးရအဖွဲ့မှ ဆိုင်းငံ့ထား သော လုပ်ငန်း ၆၈ ခု အနက် တစ်ခုအပါအဝင်ဖြစ်ပြီး **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ** လုပ်ထုံးလုပ်နည်းနှင့်အညီလုပ်ရန်၊ နောက်အစိုးရသို့လွှဲပေးရန် ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက် နေ့ပါစာဖြင့် ကော်မရှင်သို့ ညွှန်ကြားထားသည့်အတွက် အဆိုပြုချက်ကို ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၁ ရက် နေ့တွင် ကျင်းပသော ကော်မရှင်၏ ၂၂ /၂၀၁၆ ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပြီး ယင်းအစည်းအဝေးမှ အဆိုပြုလုပ်ငန်းကို မူအားဖြင့် သဘောတူကြောင်းနှင့် နောက်အစိုးရလက် ကကမ်မှဆက်လက်စိစစ်လုပ်ကိုင်ရန် ဆုံးဖြတ်ချက်အရ အဆိုပြုချက်ကို ကော်မရှင်မှ ပဲခူးတိုင်းဒေသ ကြီးအစိုးရအဖွဲ့သို့ ပြန်လည်ပေးပို့ခဲ့ပါသည်။ **နောက်ဆက်တွဲ (က)**

၃။ ယခင်အစိုးရလက်ထက်တွင် ပြည်ကောင်စုအစိုးရအဖွဲ့မှ ဆိုင်းငံ့ခဲ့သည့် လုပ်ငန်း ၆၈ ခု အနက်ကော်မရှင်သို့ အဆိုပြုချက်တင်ပြခဲ့သည့်လုပ်ငန်းများနှင့်စပ်လျဉ်း၍ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၁ ရက်နေ့တွင်ကျင်းပသောကော်မရှင်၏ ၂၂/၂၀၁၆ ကြိမ်မြောက်အစည်းအဝေးမှ Hantharwady Development Public Co., Ltd. အမည်ဖြင့်ပဲခူးတိုင်းဒေသကြီးပဲခူးမြို့ရှိမြို့ပြဖွံ့ဖြိုးရေး စီမံကိန်းလုပ်ငန်းနှင့် ဟံသာဝတီစက်မှုဥယျာဉ် ဖော်ထုတ်ခြင်းလုပ်ငန်းတို့နှင့်စပ်လျဉ်း၍

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ပြန်လည်စိစစ်တင်ပြရန်ဆုံးဖြတ်ခဲ့သဖြင့် အစည်းအဝေးဆုံးဖြတ်ချက်ပါအတိုင်း ဆောင်ရွက်သွားရန် ကော်မရှင်မှပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ (၅-၁၂-၂၀၁၇)ရက်နေ့တွင်တစ်ကြိမ်၊ (၁၇-၂-၂၀၁၇)ရက်နေ့တွင် တစ်ကြိမ်အကြောင်းကြားခဲ့ပါသည်။ **နောက်ဆက်တွဲ (ခ)**

၄။ ကော်မရှင်၏ အကြောင်းကြားချက်အရ ယခုအစိုးရလက်ထက် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ပြန်လည်ကင်ပြရာ၌ မြေနှင့်ပတ်သက်၍ ၄င်းတို့မှစိစစ်ရာတွင် ကုမ္ပဏီအနေဖြင့်စီမံကိန်းဆောင်ရွက်မည့် မြေ၂၅၀၀ဧကအား ဥပဒေနှင့်အညီဆောင်ရွက်ထားပြီး မြေဧရိယာအသီးသီးအား တရားဝင် ဝယ်ယူပိုင်ဆိုင်ထား၍ နှစ် (၃၀) မြေငှားဂရန်များရရှိထားပြီးဖြစ်ကြောင်းနှင့်မြေပိုင်ဆိုင်မှုအရှုပ်အရှင်းမရှိကြောင်း နှင့် ၂၀၁၇ခုနှစ် ဖေဖော်ဝါရီလ ၁၇ ရက်နေ့တွင် ကျင်းပသော ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့၏ အစည်းအဝေးအမှတ်စဉ် ၂/၂၀၁၇ ကြိမ်မြောက် ဆုံးဖြတ်ချက်အပိုဒ် ၆ (င) အရ ကုမ္ပဏီ၏ လုပ်ငန်းဆောင်ရွက်မည့် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့ရှိ မြို့ပြဖွံ့ဖြိုးရေးစီမံကိန်းလုပ်ငန်း၊ ဟံသာဝတီစက်မှုဥယျာဉ် စီမံကိန်းလုပ်ငန်းတို့၏ လုပ်ငန်းဆောင်ရွက်ခွင့် နှင့်ပတ်သက်၍ ဆက်လက်ဆောင်ရွက်ခွင့်ပြုရန် ထောက်ခံပါကြောင်း ကော်မရှင်သို့ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ မှ တင်ပြထားပါသည်။ **နောက်ဆက်တွဲ (ဂ)**

၅။ အဆိုပြုလုပ်ငန်းသည် အထက်အပိုဒ် ၄ ပါ ယခင်အစိုးရလက်ထက် ပြည်ထောင်စုအစိုးရအဖွဲ့မှ ဆိုင်းငံ့ထားသော လုပ်ငန်း ၆၈ ခုတွင် ပါဝင်ခဲ့သော်လည်း ပြည်ထောင်စု အစိုးရအဖွဲ့က မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လုပ်ထုံးလုပ်နည်းနှင့်အညီလုပ်ရန် နောက်အစိုးရသို့ လွှဲပေးရန် ဆုံးဖြတ်ချက်အရ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ သဘောထားတောင်းခံခဲ့ရာ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ အပိုဒ် ၄ ပါအတိုင်း **ထောက်ခံပါကြောင်း တင်ပြလာသဖြင့်** ၂၀၁၇ ခုနှစ် မတ်လ ၁၃ ရက်နေ့တွင် ကျင်းပသည့် ကော်မရှင်၏ ၅ /၂၀၁၇ ကြိမ်မြောက် အစည်း အဝေးသို့ တင်ပြခဲ့ရာ “Project Plan တင်ပြပေးရန်နှင့် Phase တစ်ခုချင်းအလိုက် တင်ပြရန်” ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ ကုမ္ပဏီနှင့် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ ၂၀၁၇ ခုနှစ် မေလ ၁၁ ရက်နေ့တွင် အဆိုပြုချက်အားပြန်လည်တင်ပြလာသည့်အတွက် ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်းဖြစ်ပါသည်။ **နောက်ဆက်တွဲ (ဃ)**

၆။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ (၅၀)နှစ်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ (၆)နှစ်ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အခြားတင်ပြချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) စက်မှုမြို့တော်စီမံကိန်းအတွက် သောက်သုံးရေဖူလုံစေရေးအတွက် အစီအစဉ်များ၊ ရေဆိုးနှင့်စွန့်ပစ်ရေထုတ်လွှတ်မှုအတွက် စီမံမှုများ၊ သောက်သုံးရေဖူလုံစေရေး အတွက် အစီအစဉ်များကို အကောင်အထည်ဖော်ဆောင်ရွက်မည်ဖြစ်ပြီး ထိုသို့ဆောင်ရွက်ရာ

တွင် တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ခ) အဆိုပြုစီမံကိန်းအတွက် လျှပ်စစ်ဓါတ်အား ၁၅၀ မဂ္ဂါဝပ် လိုအပ်မည်ဖြစ်ပြီး အဆိုပါ လျှပ်စစ်ဓါတ်အားကို ကမာနတ်ဓါတ်အားခွဲရုံမှ ရယူသွယ်တန်းရန်လျာထားပါကြောင်း တင်ပြထားပါသည်။

၈။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းကျပ် ၂၂၂၅၄၅.၄၅ သန်းဖြစ်ပါသည်။ ၎င်းတွင် ကိုယ်ပိုင်မတည်ငွေ (၉၅.၅%)ကျပ် ၂၁၂၅၄၅.၄၅ သန်း နှင့် ချေးငွေ (၄.၅%) ကျပ် သန်း ၁၀၀၀၀ ပါဝင်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ်-(သန်း) |
|---|---|---|
| ငွေသား | - | ၁၀၀၀.၀၀ |
| ဆောက်လုပ်ရေးကုန်ကြမ်းပစ္စည်း | - | ၂၂၁၅၄၅.၄၅ |
| **စုစုပေါင်း** | | ၂၂၂၅၄၅.၄၅ |

၉။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း(၆၇)ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်၁၀၈,၀၀၀ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀၀၀၀ ဖြစ်ပါသည်။

၁၀။ Hantharwady Development Public Co., Ltd.သည် ပဲခူးစက်မှုမြို့တော် တည်ဆောက်ခြင်းအားအပိုင်း(၁)ပိုင်းလျှင် တည်ဆောက်ရေးကာလ(၂)နှစ်ဖြင့် အပိုင်း(၃)ပိုင်းအား တည်ဆောက်ရေးကာလ (၆)နှစ်အတွင်း စုစုပေါင်းမြေဧရိယာ၂၄၅၄.၉၈ ဧကအား အောက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ပါသည်-

| စဥ် | ဖော်ထုတ်မည့်မြေအမျိုးအစား | ဖော်ထုတ်မည့် ဧရိယာ (ဧက) | | | ဖော်ထုတ်မည့် ဧရိယာ (အကွက်) | | |
|---|---|---|---|---|---|---|---|
| | | Phase I | Phase II | Phase III | Phase I | Phase II | Phase III |
| (၁) | First Category Residential Area | - | - | ၄၂.၃၀ | - | - | ၄၄၀ |
| (၂) | Second Category Residential Area | - | - | ၅၇.၂၆ | - | - | ၁၁၁ |
| (၃) | Third Category Residential Area | ၉၂.၆၀ | - | ၅၉.၁၆ | ၅၁ | - | ၈ |
| (၄) | Commercial Establishments | ၂၂.၁၂ | ၂၈.၃၂ | ၁၈.၄၉ | ၁ | ၂ | ၁ |
| (၅) | Commercial Service | ၁၅.၂၂ | ၁၂.၈၀ | ၅၅.၈၀ | ၁ | ၁ | ၁ |
| (၆) | Light Industry | ၂၀၂.၇၅ | ၁၉၅.၀၈ | ၁၆၇.၆၅ | ၄၃ | ၃၂ | ၃၅ |
| (၇) | High-Technology Industry | ၁၈၇.၇၅ | ၁၅၀.၃၈ | ၁၇၆.၃၅ | ၄၀ | ၃၂ | ၃၆ |
| (၈) | First Class of Logistics | ၁၉.၃၆ | ၂၆.၀၃ | ၂၅.၈၀ | ၁ | ၁ | ၆ |
| (၉) | Second Class of Logistics | ၁၀.၉၈ | ၂၀.၁၄ | ၁၂.၄၄ | ၁ | ၁ | ၄ |
| (၁၀) | Administrative and Services | ၅.၆၂ | ၃.၈၀ | ၂.၄၈ | ၁ | ၁ | ၁ |
| (၁၁) | Administrative Area | ၂.၉၃ | ၄.၆၃ | ၂.၆၁ | ၁ | ၁ | ၁ |
| (၁၂) | Educational Institution | ၃.၅၈ | ၃.၄၃ | ၁.၉၉ | ၁ | ၁ | ၁ |
| (၁၃) | Medical | ၅.၆၃ | ၃.၅၃ | ၈.၃၁ | ၁ | ၁ | ၁ |

| | | | | | | | |
|---|---|---|---|---|---|---|---|
| (၁၄) | Fire Station | ၈.၆၇ | ၁၂.၅၂ | ၅.၂၉ | ၁ | ၁ | ၁ |
| (၁၅) | Bus Station | ၂၈.၉၉ | - | ၁၂.၆၂ | ၀ | - | ၁ |
| (၁၆) | Road | ၂၁၄.၉၂ | ၁၂၅.၁၁ | ၁၆၆.၀၉ | - | - | - |
| (၁၇) | Green Space | ၄၁.၈၆ | ၅၅.၆၆ | ၂၅.၁၂ | - | - | - |
| (၁၈) | Water Area | ၁၈.၁၇ | ၁၈.၅၄ | ၃၉.၃၉ | - | - | - |
| (၁၉) | Water Treatment Plant | ၃.၁၉ | ၃.၂၁ | ၃.၂၁ | ၁ | ၁ | ၁ |
| (၂၀) | Sub Station | ၇.၉၂ | ၇.၉၂ | ၇.၈၈ | ၁ | ၁ | ၁ |
| | စုစုပေါင်း | ၈၉၂.၂၆ | ၆၇၂.၁၀ | ၈၉၀.၆၂ | ၁၄၆ | ၇၆ | ၆၅၀ |
| | Waste Area | ၂၈၁.၀၅ | ၂၀၅.၄၁ | ၁၆၂.၇၀ | | | |
| | Used Area | ၆၁၁.၂၁ | ၄၆၆.၆၉ | ၇၂၇.၉၂ | | | |

၁၁။ အဆိုပြုလုပ်ငန်းမှ စုစုပေါင်း ဖော်ထုတ်မည့် မြေဧရိယာ ၂၄၅၄.၉၈ ဧကအနက် Used Area ၁၈၀၅.၈၂ ဧက (Plot ၈၇၂ ကွက်အား တစ်စတုရန်းမီတာ=ကျပ် ၂၈၈၀ နှုန်းဖြင့် နှစ်စဉ် ငှားရမ်းခ ဝင်ငွေများရရှိမည်ဖြစ်ပါသည်။

၁၂။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် ၆နှစ်မြောက်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်း ခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်

(က) ဝင်ငွေ - ကျပ် ၂၂၀၉၉.၀၉ သန်း

(ခ) အသုံးစရိတ် - ကျပ် ၁၀၄၁၉.၆၅ သန်း

(ဂ) အသားတင်အမြတ် - ကျပ် ၁၁၆၇၉.၄၄ သန်း

၁၃။ နိုင်ငံတော်မှ ပုံမှန်နှစ် ၆နှစ် မြောက်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁၀၁၀.၆၁ သန်းဖြစ်ပြီးဝင်ငွေခွန် ကျပ် ၃၈၉၃.၁၅သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၁၅ နှစ်နှင့် ၆ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၇.၆၄ ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၄။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး (နောက်ဆက်တွဲ-င)

(၁) ပဲခူးစက်မှုမြို့တော်စီမံကိန်း ပြုလုပ်မည့် မြေဧရိယာ ၂၄၅၄.၉၈ ဧကသည် ပဲခူးမြို့၊ မြို့ပြစီမံကိန်း၏ တစ်စိတ်တစ်ဒေသဖြစ်ကြောင်း။

(၂) ပြည်သူတို့၏ လူမှုအကျိုးစီးပွားကို ထိခိုက်နိုင်ခြင်းမရှိပါကြောင်း။

(၃) အဆိုပါ ပဲခူးစက်မှုမြို့တော်စီမံကိန်းလုပ်ငန်းအား အကောင်အထည်ဖော်ဆောင်ရွက်ရာတွင်ဆက်စပ်လုပ်ငန်း နယ်ပယ်များအတွင်း အလုပ်အကိုင် နေရာသစ်များ ဖန်တီးပေးနိုင်မည်ဖြစ်ပြီး မြို့နယ်အတွင်းရှိ ဒေသခံပြည်သူများအနေဖြင့် အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုမှ ကင်းဝေးပါကြောင်း။

(၄) ဖော်ပြပါ ပဲခူးစက်မှုမြို့တော်စီမံကိန်း ဆောင်ရွက်မည့် မြေနေရာတွင် ပဲခူးစက်မှုမြို့တော် စီမံကိန်းဆောင်ရွက်နိုင်ခြင်းရှိပါကြောင်း။

(၅) ပဲခူးစက်မှုမြို့တော်စီမံကိန်း ပြုလုပ်မည့် မြေနေရာသည် မြေဧရိယာ ၂၄၅၄.၉၈ ဧက ရှိ မြေဖြစ်ပြီးပဲခူးမြို့ မြို့ပြစီမံကိန်း၏ တစ်စိပ်တစ်ဒေသဖြစ်သည့်အပြင် မြို့နယ်အတွင်းရှိ ပြည်သူများအနေဖြင့် အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုး တက်မှုအတွက် အထောက်အကူ ဖြစ်စေသောကြောင့် ပဲခူးစက်မှုမြို့တော် စီမံကိန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း။

(၆) သို့ပါ၍ ဟံသာဝတီ ဖွံ့ဖြိုးတိုးတက်ရေး အများနှင့်ဆိုင်သော ကုမ္ပဏီလီမိတက် မှ ပဲခူးတိုင်းဒေသကြီး၊ အင်းတကော်မြို့ရှိမြေ ဧက ၂၄၅၄.၉၈ တွင် ပဲခူးစက်မှုမြို့တော် စီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း။

(ခ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန (နောက်ဆက်တွဲ-စ)

(၁) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင်၊လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ ပူးပေါင်းဆောင်ရွက်မှု (Corporate Social Responsibility –CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်း အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုစီမံကိန်းလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကို ဆောင်ရွက်ပြီး အစီရင်ခံစာရေးသားတင်ပြရန်။

(၃) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရန် နှင့် လူတို့၏ ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့် လုပ်ငန်း အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်နှင့် စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ်

(Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန်နှင့် စိမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊EIA နှင့် EMP အစီရင်ခံစာတို့အတွက် Third Party ဖြစ်သည့် Green Myanmar Environmental Services Co., Ltd.နှင့် စာချုပ်ချုပ်ဆိုပြီး ဖြစ်ကြောင်းနှင့် ၂၀၁၈ ခုနှစ် မတ်လတွင် ရေးဆွဲတင်ပြမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။)**

(ဂ) **ဆောက်လုပ်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဆ)**

(၁) လိုက်နာဆောင်ရွက်ရန်

(ကက) အဆိုပြုစက်မှုစီမံကိန်း၏ အကျယ်အဝန်းသည် (၂၅၀၀)ဧကခန့် ရှိပြီး မြေအသုံးချမှု အနေဖြင့် လူနေဇုန်(Residential)၊အုပ်ချုပ်ရေးနှင့် ဝန်ဆောင်မှုဇုန် (Public Administration and service estate)၊ စီးပွားရေးဝန်ဆောင်မှုဇုန် (Commercial Service Establishment)၊ စက်မှုကုန်ထုတ်ဇုန် (Industrial Land)နှင့် စိမ်းလန်းဇုန်များ (Green Space)၊ ထည့်သွင်းရေးဆွဲထားသည့် Concept Plan ပုံစံဖြစ်ကြောင်း။

(ခခ) အဆိုပြုစက်မှုမြို့စီမံကိန်းတွင် ဖောက်လုပ်မည့် ပေ(၄၀)၊ပေ(၆၀)၊ပေ (၈၀) နှင့်ပေ (၁၀၀) လမ်းများကို Road Traffic analysis အဖြစ် ဖော်ပြထားသော်လည်း လမ်းဧရိယာ အချိုးအစားများကို ထည့်သွင်းဖော်ပြထားခြင်း မရှိသည်ကို တွေ့ရကြောင်းနှင့် မဟာဓါတ်အားလိုင်းဝဲ/ယာတွင်လည်း ကြားခံမြေများ(Buffer Area) ထားရှိသွားရန် လိုအပ်ကြောင်း။

(ဂဂ) စက်မှုမြို့၏ပြင်ပဆက်သွယ်ရေးလမ်းကြောင်းသည်ကဝမှရန်ကုန်-မန္တလေး လမ်းဟောင်းသို့ ဆက်သွယ်သည့် လမ်းကိုအခြေခံထားသည်ကို တွေ့ရှိရကြောင်းနှင့် အဆိုပါ စက်မှုမြို့တည်နေရာမှ ရန်ကုန်-မန္တလေး ကားလမ်းသို့ ဆက်သွယ်ရေးလမ်းကြောင်း ကောင်းမွန်စေရန်အတွက် (၉)မိုင် အရှည်ရှိ လမ်းကို အဆင့်မြှင့်တင် ဆောင်ရွက်ဖောက်လုပ်ရန် လိုအပ်ကြောင်း။

(၂) **အကြံပြုချက်များ**

(ကက)စီမံကိန်းဧရိယာအတွင်းတွင် သတ်မှတ်ထားသော စိမ်းလန်းမြေနှင့် Utilities Area များကို အခြားမည်သည့် မြေအသုံးပြုမှုအဖြစ် ပြောင်းလဲအသုံးချခြင်းမပြုရန် လိုအပ်ကြောင်း။

(ခခ) အဆိုပြုစက်မှုဥယျာဉ်စီမံကိန်း၏မြေအသုံးချမှုအား အောက်ဖော်ပြပါသတ်မှတ်ချက် များနှင့်အညီ ဆောင်ရွက်ရန်-

| | | |
|---|---|---|
| (၁) Building Coverage Ratio (BCR) | = | ၄၀% မှ ၅၀% |
| (၂) Floor Area Ratio (FAR) | = | ၁.၅ မှ ၂.၅ |
| (၃) လမ်းအသုံးပြုမှု | = | ၂၀% (အနည်းဆုံး) |
| (၄) စိမ်းလန်းမြေ | = | ၅% မှ ၁၀% |
| (၅) Mix Used (စီးပွားရေးအသုံးပြုမှု) (Total Floor Area) | = | ၃၀% မှ ၄၀% |
| (၆) လူဦးရေသိပ်သည်းမှု(အများဆုံး) | = | ၂၀၀ဦး/ တစ်ဧက |

(ဂဂ) အဆိုပြုစီမံကိန်းများအားလုံး Concept Plan အဆင့်မှ အခြေခံအဆောက်အဦ စီမံကိန်းပုံစံ Infrastructure Plan၊ Master Plan နှင့် အကောင်အထည်ဖော်ရန် Detail Plan များဆက်လက်ရေးဆွဲ၍ သက်ဆိုင်ရာဌာန အဖွဲ့အစည်းများထံမှ အတည်ပြုချက်ရယူ၍ ဆောင်ရွက်ရန် လိုအပ်ကြောင်း။

(ဃဃ) မြေဧက ၂၀၀ အထက်ရှိသော ဖွံ့ဖြိုးရေးစီမံကိန်းများ ဖြစ်သောကြောင့် မြေစီမံခန့်ခွဲမှု (Land Management)နှင့် မြေပုံရာဇဝင်ထိန်းသိမ်းခြင်း (Land Record) တို့ကို သက်ဆိုင်ရာ အစိုးရဌာနအဖွဲ့အစည်းတစ်ခုခုမှ စီမံခန့်ခွဲခြင်းများဆောင်ရွက်ရန်လိုအပ်ကြောင်း။

(ငင) ပဲခူးတိုင်းဒေသကြီးအတွင်းဆောင်ရွက်ရန် အဆိုပြုတင်ပြသည့်ဖော်ပြပါ ပဲခူးမြို့သစ် စီမံကိန်း၊ Eco Resort စီမံကိန်း၊ စက်မှုမြို့စီမံကိန်းများနှင့် စပ်လျဉ်း၍ နယ်မြေ ဒေသဖွံ့ဖြိုးရေးအတွက် အထောက်အကူပြုစေရန် လူမှုရေး ၊ စီးပွားရေး၊လမ်းပန်းဆက်သွယ်ရေး၊ သယ်ယူပို့ဆောင်ရေးတို့ကိုရှုထောင့်စုံမှ ထည့်သွင်း စဉ်းစား၍ သတ်မှတ်ထားသော ဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်ရန်။

**(၃) စီမံကိန်းများနှင့် အကျိုးစီးပွား ရလာဒ်များကို ဆန်းစစ်ရန်အချက်များ**

(က) နောင်လာမည့် ၅ နှစ်မှ ၁၀ နှစ်အတွင်း ထူထောင်ရန် လျာထားသည့် မြို့ပြဖွံ့ဖြိုးရေး လုပ်ငန်းများနှင့် စက်မှုဇုန်ထူထောင်ရေး လုပ်ငန်းများသည် အစိုးရ၊ ပုဂ္ဂလိက ရင်းနှီးမြှုပ်နှံသူများနှင့်အများပြည်သူတို့အတွက် ရေရှည်စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်မှု (Sustainable Development) နှင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေဘဲ စီးပွားရေးအကျိုးရလဒ်ကောင်းများလည်း ရရှိစေရန်အ

တွက်ကျွမ်းကျင်သူအတိုင်ပင်ခံ အဖွဲ့ အစည်း (Consultant Farm)များဖြင့် Business Plan ကို ဘက်စုံရှုထောင့်စုံမှ ထည့်သွင်းစဉ်းစား၍ အချိန်ယူ ရေးဆွဲပြီး အဆင့်အလိုက် Phase by Phase အကောင်အထည်ဖော် ဆောင်ရွက်သွားရန် လိုအပ်ကြောင်း။

(ခ) နယ်မြေဒေသ ဖွံ့ဖြိုးတိုးတက်ရေးဆိုင်ရာ ရေရှည်ဖွံ့ဖြိုးမှု အစီအမံများချမှတ်၍ ပဏာမ ဖြစ်တန်စွမ်း လေ့လာမှု အစီရင်ခံစာအရ ဆောင်ရွက်မည့် လုပ်ငန်းစီးပွားပတ်ဝန်းကျင်ဆိုင်ရာ၊ မြို့ပြစီမံကိန်းဆိုင်ရာ စီမံကိန်းများအား စနစ်တကျနှင့် နည်း ပညာလိုအပ်ချက်များကိုပါ ထည့်သွင်းတွက်ချက်ရန် စနစ်တကျ ဆောင်ရွက်သင့်ကြောင်း။

(ဂ) မြေအသုံးပြုမှုများတွင် တန်ဖိုးရှိ၍ အစားပြန်လည်မရနိုင်သော အရင်းအမြစ်များ(Non-renewable resources) ဆုံးရှုံးခြင်းမှကာကွယ်တားဆီးရန် လိုအပ်ကြောင်း။

(ဃ) ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ခိုင်မာသော အဖွဲ့အစည်း အုပ်ချုပ်မှုစနစ်ကို ထူထောင်၍ စနစ်တကျ စီမံခန့်ခွဲခြင်းဖြင့် ရေရှည်စဉ်ဆက်မပြတ်ဖွံ့ဖြိုးမှု (Sustainable Development) ရရှိစေမည် ဖြစ်ပါကြောင်း။

(င) အနာဂတ်တွင် ဆောင်ရွက်မည့် မြို့ပြဖွံ့ဖြိုးရေး အစီအစဉ်များကို Green City and Green Growth Concept ဖြင့် စီမံကိန်းများရေးဆွဲခြင်း၊ ပွင့်လင်းမြင်သာစွာဖြင့် အကောင်အထည်ဖော်မှု အစီအစဉ်များ ဆောင်ရွက်ခြင်းတို့ဖြင့် နိုင်ငံတကာအဆင့်မီ ဆောင်ရွက်သွားသင့်ကြောင်း။

**(ဃ) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန** (နောက်ဆက်တွဲ-ဓ)

(၁) အဆိုပြုဧရိယာများသည် ဆည်များ၏အောက်ပိုင်း လက်ရှိမြို့ရွာများနှင့် တစ်ဆက်တစ်စပ်တည်း ဖြစ်ခြင်းကြောင့် ဧရဝေဧရလဲ ဧရိယာများ မပါဝင်ပါကြောင်း။

(၂) အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင့်လျော်ပါကြောင်း။

(၃) မြေနှင့်ပတ်သက်၍ ပြည်ထောင်စု အစိုးရအဖွဲ့၊ မြေအသုံးချမှု စီမံခန့်ခွဲရေး ဗဟိုကော်မတီတို့၏ စီစစ်ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ထားခြင်းဖြစ်ပါကြောင်း။

**(င) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန။** အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်နေရာအားအောက်ပါအတိုင်း စိစစ်ချက်အရ လေယာဉ်ဆင်းသက်မှုဇုန်နှင့် လွတ်ကင်းမှုရှိပါသဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း။ **(နောက်ဆက်တွဲ-ဈ)**

| အမည် | တည်နေရာ | လျှောက်ထားယာသော အဆောက်အဦ အမြင့် (m) | အဆောက်အဦ၏ A.M.S.L (m) | လေယာဉ်ကွင်း ၏ A.M.S.L (m) | ကွင်းမှ အကွာအဝေး (km) | လေယာဉ် ဆပ်သက်မှုဇုန် နှင့် လွတ်ကင်းမှု အခြေအနေ |
|---|---|---|---|---|---|---|
| ဟံသာဝတီ စက်မှုဇုန်ဥယျာဉ်စီမံကိန်း (၂၅၀၀ဧက) | N 17 6' E 96 24' | 15.24 | 16.15 | 45.41 | 20.49 | OLS မှ လွတ်ကင်းမှု ရှိပါသည်။ |

(စ) စက်မှုဝန်ကြီးဌာန (နောက်ဆက်တွဲ-ည)

(၁) စီမံကိန်းတည်ဆောက်မည့် စက်မှုလုပ်ငန်းများ၏ လုပ်ငန်းအမျိုးအစားများဖော်ပြရန် လိုအပ်ကြောင်း။

(၂) မြေအသုံးချမှုဝါဒအရ စက်မှုဥယျာဉ်မြို့တော်တည်ထောင်ရာတွင် လမ်း+Open Space၊ ဆေးရုံ(သို့)ဆေးခန်း၊ အုပ်ချုပ်ရေးရုံး၊ မီးသတ်ဌာန၊ သစ်ပင်ပန်းခြံဧရိယာ၊ စက်မှုလုပ်ငန်းသုံးအဆိပ်အတောက်ပစ္စည်းများစနစ်တကျစွန့်ပစ်ရေးနှင့် စက်ရုံဧရိယာများစသည့် အင်္ဂါရပ်များနှင့်အညီ အချိုးအစားမျှတစွာ ဆောင်ရွက်သွားရန်။

(၃) စက်မှုဥယျာဉ်တည်ထောင်ခြင်းသည် ရေရှည်လုပ်ငန်းဖြစ်သဖြင့် ရေ/မီး လိုအပ်ချက်အား ဖြည့်ဆည်းဆောင်ရွက်ရန်၊ စွန့်ပစ်ပစ္စည်းများ ရေဆိုးများမှ တစ်ဆင့် ပတ်ဝန်းကျင်ရှိ ရေ၊လေ၊မြေကြီး၊ မြေအောက်ရေတို့အား ထိခိုက်မှုမရှိစေရေး အလေးထားဆောင်ရွက်ရန်၊ မြေအရင်းအမြစ်များ ထိရောက်စွာ စီမံခန့်ခွဲရေးနှင့် မြေနေရာပိုင်ဆိုင်မှု ပြဿနာမရှိစေရေးတို့အတွက် သက်ဆိုင်ရာ တိုင်းဒေသကြီး မြေအသုံးချမှု စီမံခန့်ခွဲရေး ကော်မတီ နှင့် ညှိနှိုင်းစိစစ်ရန်။

(၄) စက်မှုဥယျာဉ် တည်ထောင်ပြီးပါက တည်ဆဲဥပဒေစည်းမျဉ်းနှင့်အညီ ကြီးကြပ်ကွပ်ကဲ နိုင်ရန်အတွက် Developer နှင့် ဒေသဆိုင်ရာအာဏာပိုင်များ ပါဝင်သော စီမံခန့်ခွဲရေးကော်မတီကို ဖွဲ့စည်းဆောင်ရွက်ရန်နှင့် သက်ဆိုင်ရာတိုင်း ဒေသကြီး အစိုးရအဖွဲ့မှ တစ်ဆင့် စက်မှုလုပ်ငန်း ဖွံ့ဖြိုးတိုးတက်ရေးကော်မတီသို့စီမံခန့်ခွဲရေး ကော်မတီ ဖွဲ့စည်းပုံအား ပေးပို့ရန်။

၁၅။ ငွေကြေးအထောက်အထားအဖြစ် Hantharwady Development Public Co., Ltd.အမည်ဖြင့် CB Bank Ltd (၅-၅-၂၀၁၅)ရက်စွဲဖြင့် ကျပ် ၁၂၆၁၂၅၂၆၈.၀၀ ရှိကြောင်း တင်ပြထားပါသည်။ ချေးငွေအဖြစ် ကျပ် ၁၀ ဘီလီယံကို CB Bank Ltd.မှ ချေးယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၆။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း၊ နိုင်ငံတော်အစိုးရမှ သတ်မှတ် ပြဋ္ဌာန်းထားသည့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ မီးဘေးအန္တရာယ်အတွက် လိုအပ်သော စီမံထားမှု၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်းနှင့် အသားတင်အမြတ်ငွေ၏ ၂ ရာခိုင်နှုန်းကိုကျခံသုံးစွဲသွားမည်ဖြစ်ပါကြောင်း ကုမ္ပဏီမှ ဝန်ခံကတိပြုထားပါသည်။

၁၇။ အဆိုပြုလုပ်ငန်းအတွက် ရေနှင့် လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့် အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်တို့အား တင်ပြထားပါသည်။

၁၈။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၉။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ၂၄၅၄.၉၈ ဧကအတွက် မြေအထောက်အထားအဖြစ် အခြားနည်းအသုံးပြုခွင့် ပုံစံ ၁၅(က) ရရှိပြီးကြောင်း နှင့် မြေဂရန် ရရှိပြီးဖြစ်ကြောင်း အထောက်အထားများ တင်ပြထားပါသည်။

(ခ) စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ စက်မှုဥယျာဉ်စီမံခန့်ခွဲရေးကော်မတီကို ၈-၃-၂၀၁၆ ရက်နေ့တွင် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ ရုံးမိန့်အမှတ် ၂၁/၂၀၁၆ (၈-၃-၂၀၁၆)ဖြင့် ဖွဲ့စည်းပြီးဖြစ်ပါသည်။

(ဂ) ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၁ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ ၂၂ / ၂၀၁၆ ကြိမ်မြောက်အစည်းအဝေး ဆုံးဖြတ်ချက်အရ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အတွက် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ပြန်လည်စိစစ်တင်ပြလာသည့်အတွက် အဆိုပြုချက်အား ကော်မရှင်သို့ ပြန်လည်တင်ပြခြင်းဖြစ်ပါသည်။

(ဃ) ပြန်လည်တင်ပြလာသော အဆိုပြုချက်တွင် မြေယာစည်ပင်မှုလုပ်ငန်းများအနေဖြင့် Phase I, II, III အနေဖြင့် Residence Land, Commercial Land, Industrial Land, Logistics Land, Pubolic Administration Land, Road &

Transformational facilities, Green space, water area နှင့် Utility area များ အဖြစ်ပိုင်းခြား၍ တည်ဆောက်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(င) ကည်ဆောက်ရေးကာလ ၃ နှစ်မြောက်မှစ၍ ဝင်ငွေရရှိမည်ဖြစ်ကြောင်း တင်ပြထားသဖြင့် တည်ဆောက်ရေးကာလအတွင်း ရရှိသော ဝင်ငွေအပေါ် ဝင်ငွေခွန် ဥပဒေနှင့်အညီ ဝင်ငွေခွန်ပေးဆောင်ရမည်ဖြစ်ပါသည်။

(စ) အဆိုပြုလုပ်ငန်းအတွက် CB Bank မှ ချေးငွေ ကျပ် ၁၀ ဘီလီယံအား တစ်နှစ်လျှင် အတိုးနှုန်း ၁၃ % ဖြင့် ၁၀ နှစ်အတွင်း ပြန်လည်ပေးဆပ်ရန် အတွက်ထုတ်ချေးမည် ဖြစ်ကြောင်းအထောက်အထားနှင့်အတူချေးငွေ ပြန်လည်ပေးဆပ်မည့်အစီအစဉ်အားတင်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

(ဆ) အဆိုပြုချက်နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၆ ရက်နေ့ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/ ၂၀၁၆ အရ မြန်မာနိုင်ငံသများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။

(ဇ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့်ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၂၀။ သို့ဖြစ်ပါ၍Hantharwady Development Public Co., Ltd. မှ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်ရှိ မြေဧရိယာ ၂၄၅၄.၉၈ ဧကတွင် စက်မှုဥယျာဉ်ဖော်ထုတ်ခြင်းနှင့်ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့်တင်ပြလာခြင်းအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန်သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

Myanmar Investment Commission
ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ ၀၁-၆၅၈၁၂၉

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ ရက- ၄/မ-၁၅၂၄/၂၀၁၆( ၅ ၁ ၉ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ်လ ၃၀ ရက်

သို့

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

အကြောင်းအရာ ။ **Hantharwady Development Public Co., Ltd.မှပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်ရှိမြေ ၂၄၅၄.၉၈ဧကတွင် စက်မှုဥယျာဉ် ဖော်ထုတ်ခြင်းနှင့် ဌားရမ်းခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့်အဆိုပြုချက်တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၄-၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ၈/၁-၁၂/ ဦး-၈ (၀၀၄)

(၂) ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၂-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၃၇၃ / ၃၁၂-စီမံကိန်း ၃-၆/ အဖရ (၂၀၁၆)

၁။ Hantharwady Development Public Co., Ltd. မှ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးခရိုင်၊ ပဲခူးမြို့နယ်၊ ကော့ချဲ၊ မှော်လုံ၊ သာယာကုန်း၊ လသာကုန်း၊ လသာအေး၊ အင်းတကော်၊ ဘုရား ငုတ်တို၊ သာယာကုန်း ကျေးရွာအုပ်စု ရှိမြေဧရိယာ ၂၄၅၄.၉၈ ဧကတွင် ပဲခူးစက်မှုမြို့တော် တည်ဆောက်ခြင်းအတွက် စက်မှုဥယျာဉ်ဖော်ထုတ်ခြင်းနှင့် ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးခင်မောင်လွင်မှ ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့မှတစ်ဆင့် ရည်ညွှန်း(၁) ပါစာဖြင့် အဆိုပြုချက်တင်ပြလာပါသည်။

၂။ ယင်းအဆိုပြုချက် တင်ပြခြင်းနှင့် စပ်လျဉ်း၍ ၂၀၁၆ခုနှစ် မတ်လ ၂၅ ရက်နေ့တွင် ကျင်းပသည့် ကော်မရှင်၏ ၁၁ / ၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အဆိုပြုလုပ်ငန်းကို မူအားဖြင့်သဘောတူကြောင်းနှင့် ရည်ညွှန်း (၂)ပါစာအရ နောက်အစိုးရလက်ထက်မှ ဆက်လက်စိစစ်လုပ်ကိုင်ရန်ဖြစ်ကြောင်းဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်ပါ အစည်းအဝေးဆုံးဖြတ်ချက်အားသိရှိနိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို

Hantharwady Development Public Co., Ltd.

ရုံးလက်ခံ/မျှောစာတွဲ

Han 2454.98 MIC rp

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်)၀၁-၆၅၈၁၃၇
☎-၀၁-၆၅၈၁၂၉

စာအမှတ်၊ မရက-၄ /မ-ထွေ/၂၀၁၆ ( ၁၀၅၄ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၇ ရက်

သို့

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ Hantharwady Development Public Co., Ltd. မှ ပဲခူးတိုင်းဒေသကြီးတွင် ပဲခူးမြို့ဖြူဖွံ့ဖြိုးရေး စီမံကိန်းလုပ်ငန်းနှင့် ဟံသာဝတီ စက်မှုဥယျာဉ် စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် တင်ပြခဲ့သည့် အဆိုပြုချက်များနှင့် စပ်လျဉ်း၍ ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြရန်ကိစ္စ

ရည် ညွှန်း ချက် ။

(၁) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၄-၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ၈/၁-၁၂/ ဦး-၈ (၀၀၃)

(၂) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၄-၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ၈/၁-၁၂/ ဦး-၈ (၀၀၄)

(၃) ပြည်ထောင်စု အစိုးရအဖွဲ့ရုံး၏ ၂-၂-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ၃၇၁/၃၄၉-စီမံကိန်း ၃-၆/ အဖရ (၂၀၁၆)

(၄) ပြည်ထောင်စု အစိုးရအဖွဲ့ရုံး၏ ၂-၂-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ၃၇၃/၃၁၂-စီမံကိန်း ၃-၆/ အဖရ (၂၀၁၆)

၁။ ယခင်အစိုးရလက်ထက်က Hantharwady Development Public Co., Ltd. မှ ၎င်းကုမ္ပဏီ ပိုင်ဆိုင်သော ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့၊ မြို့ပြဖွံ့ဖြိုးရေး စီမံကိန်းနယ်မြေ (၁)၊ ရပ်ကွက်အမှတ်(၉)ရှိမြေ ၂၆၉.၄၅ ဧကတွင် ပဲခူးမြို့ပြဖွံ့ဖြိုးရေး စီမံကိန်းလုပ်ငန်းကိုလည်းကောင်း၊ ပဲခူးတိုင်းဒေသကြီး၊ အင်းတကော်မြို့နယ်၊ ကော့ချဲကျေးရွာ၊ ဘုရားငုတ်တိုကျေးရွာ၊ လသာကုန်းကျေးရွာ၊ လသာအေးကျေးရွာရှိမြေ ဧက ၂၅၀၀ တွင် ဟံသာဝတီ စက်မှုဥယျာဉ် စီမံကိန်းလုပ်ငန်းကိုလည်းကောင်း မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် ရည်ညွှန်း(၁)နှင့် (၂)ပါစာများဖြင့် အဆိုပြုချက်နှစ်ခုအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြခဲ့ပါသည်၊

၂။ Hantharwady Development Public Co., Ltd. မှ ဆောင်ရွက်မည့် ပဲခူးမြို့ပြဖွံ့ဖြိုးရေး စီမံကိန်းနှင့်စပ်လျဉ်း၍ ဆိုင်းထားရန်နှင့် နောက်အစိုးရမှ လုပ်စေရန် ဟု လည်းကောင်း၊ ဟံသာဝတီ စက်မှုဥယျာဉ် စီမံကိန်း လုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ လုပ်ထုံး

လုပ်နည်းနှင့်အညီလုပ်ရန်၊ နောက်အစိုးရသို့ လွှဲပေးရန် ဟုလည်းကောင်း ပြည်ထောင်စု အစိုးရအဖွဲ့ရုံးမှ ရည်ညွှန်း(၃)နှင့် (၄)ပါစာများဖြင့် ညွှန်ကြားခဲ့ပါသည်။

၃။ ယခင်အစိုးရလက်ထက်က ပြည်ထောင်စုအစိုးရအဖွဲ့မှ ဆိုင်းငံ့ထားသော လုပ်ငန်း(၆၈)ခု အနက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာသော လုပ်ငန်း(၃)ခု နှင့် စပ်လျဉ်း၍ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၁ ရက်နေ့တွင် ကျင်းပခဲ့သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၂/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ "Hantharwady Development Public Co., Ltd. မှ ဆောင်ရွက်မည့် ပဲခူးမြို့ပြဖွံ့ဖြိုးရေး စီမံကိန်းလုပ်ငန်းနှင့် ဟံသာဝတီ စက်မှုဥယျာဉ် စီမံကိန်းလုပ်ငန်း တို့နှင့်စပ်လျဉ်း၍ ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့မှ ပြည်ထောင်စု အစိုးရအဖွဲ့သို့ လုပ်ငန်းဆောင်ရွက်ခွင့် ထပ်မံတင်ပြရန်" ဆုံးဖြတ်ခဲ့ပါသည်။

၄။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်-၃ ပါ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့မှ ပြည်ထောင်စုအစိုးရအဖွဲ့သို့ လုပ်ငန်းဆောင်ရွက်ခွင့် ထပ်မံတင်ပြရန် အကြောင်းကြား အပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

Hantharwady Development Public Co., Ltd.

ရုံးလက်ခံ/ မျှောစာတွဲ

Myanmar Investment Commission
ဖက်(စ်)၀၁-၆၅၈၁၉၇

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက-၄ /မ-ထွေ/ ၂၀၁၇ ( ၂၀၄ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီ လ ၁၇ ရက်

သို့

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ Hantharwady Development Public Co., Ltd. မှ ပဲခူးတိုင်းဒေသကြီးတွင် ပဲခူးမြို့ပြဖွံ့ဖြိုးရေး စီမံကိန်းလုပ်ငန်းနှင့် ဟံသာဝတီ စက်မှုဥယျာဉ် စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် တင်ပြခဲ့သည့် အဆိုပြုချက်များနှင့် စပ်လျဉ်း၍ ထပ်မံ အကြောင်းကြားခြင်းကိစ္စ

ရည်ညွှန်းချက်။ (၁) ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ၁၄-၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ၈/၁-၁၂/ ဦး-၈ (၀၀၃)(၀၀၄)

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၅-၁၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၄ /မ-ထွေ/ ၂၀၁၇ (၁၀၅၃)

၁။ ယခင်အစိုးရလက်ထက်က Hantharwady Development Public Co., Ltd. မှ ငှင်းကုမ္ပဏီ ပိုင်ဆိုင်သော ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့၊ မြို့ပြဖွံ့ဖြိုးရေး စီမံကိန်းနယ်မြေ (၁)၊ ရပ်ကွက်အမှတ်(၉)ရှိမြေ ၂၆၉.၄၅ ဧကတွင် ပဲခူးမြို့ပြဖွံ့ဖြိုးရေး စီမံကိန်းလုပ်ငန်းကိုလည်းကောင်း၊ ပဲခူးတိုင်းဒေသကြီး၊ အင်းတကော်မြို့နယ်၊ ကော့ခဲကျေးရွာ၊ ဘုရားငုတ်တိုကျေးရွာ၊ လသာကုန်းကျေးရွာ၊ လသာအေးကျေးရွာရှိမြေ ဧက ၂၅၀၀ တွင် ဟံသာဝတီ စက်မှုဥယျာဉ် စီမံကိန်းလုပ်ငန်းကိုလည်းကောင်း မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့မှတစ်ဆင့် ရည်ညွှန်း(၁)ပါစာများဖြင့် တင်ပြခဲ့သည့် အဆိုပြုချက်နှစ်ခု နှင့်စပ်လျဉ်း၍ ရည်ညွှန်း(၂)ပါစာဖြင့် ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့သို့ ဆက်လက်ဆောင်ရွက်ရန် လိုအပ်သည့် ကိစ္စများအား အကြောင်းကြားခဲ့ပြီးဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ ရည်ညွှန်း(၁)ပါ အဆိုပြုလုပ်ငန်းများ နှင့်စပ်လျဉ်း၍ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ အနေဖြင့် ပြန်လည်စိစစ် တင်ပြပေးနိုင်ပါရန် ထပ်မံအကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
Hantharwady Development Public Co., Ltd.
ရုံးလက်ခံ/ မျှောစာတွဲ

နောက်ဆက်တွဲ-ဂ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့

ပဲခူးမြို့

စာအမှတ်၊ ၈ / ၁ - ၁၂ / ဦး ၈ ( ၀၆၂ )

ရက် စွဲ၊ ၂၀၁၇ခုနှစ်၊ ဖေဖော်ဝါရီလ ၂၄ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ Hantharwady Development Public Co., Ltd.၏ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့တွင်ဆောင်ရွက်မည့် မြို့ပြဖွံ့ဖြိုးရေးစီမံကိန်းလုပ်ငန်းနှင့်ဟံသာဝတီစက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်းတို့နှင့်ပတ်သက်၍ လုပ်ငန်းဆောင်ရွက်ခွင့် ထပ်မံတင်ပြခြင်းကိစ္စ

ရည်ညွှန်းချက်။ (၁) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၈.၁၂.၂၀၁၅) ရက်စွဲပါ စာအမှတ်၊ / ၁ - ၁၂ / ဦး ၈ (၃၁၉)

(၂) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၈.၁၂.၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၈ / ၁ - ၁၂ / ဦး ၈ (၃၂၂)

(၃) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၁၄.၁.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၈ / ၁ - ၁၂ / ဦး ၈ (၀၀၃)

(၄) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၁၄.၁.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၈ / ၁ - ၁၂ / ဦး ၈ (၀၀၄)

(၅) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅.၁၂.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ မရက-၄ / ပ - ထွေ / ၂၀၁၆ (၁၀၅၃)

၁။ Hantharwady Development Public Co; Ltd.မှ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့ မြို့ပြဖွံ့ဖြိုးရေးစီမံကိန်းနယ်မြေ(၁)၊ ဥသာမြို့သစ်၊ ရပ်ကွက်(၉)ရှိ မြေဧရိယာ(၂၆၉.၄၅)ဧကတွင် ဟံသာဝတီအဆင့်မြင့်အိမ်ရာစီမံကိန်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခဲ့မှုအပေါ် ရည်ညွှန်းစာ(၁)ဖြင့်လည်းကောင်း၊ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ်၊ အင်းတကော်မြို့၊ ကော့ရဲ ကျေးရွာ၊ ဘုရားငုတ်တိုကျေးရွာ၊ လသာကုန်းကျေးရွာ၊ သာယာအေးကျေးရွာတို့ရှိ မြေဧရိယာ

2017 Head Office 15

နောက်ဆက်တွဲ-ဃ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့
ပဲခူးမြို့

စာအမှတ်၊ ၈ / ၁ - ၁၂ / ဦး ၈ (၁၇၅)

ရက် စွဲ ၊ ၂၀၁၇ ခုနှစ်၊ မေလ ၁၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **Hantharwady Development Public Co.,Ltd မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ Project Plan နှင့် Phase တစ်ခုချင်းအလိုက် ပြုစုတင်ပြခြင်း ကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇.၄.၂၀၁၇) ရက်စွဲပါစာအမှတ် မရက-၄/ဓ-၁၅၂၄/၂၀၁၇(၃၃၀)

၁။ Hantharwady Development Public Co.,Ltd မှ ပဲခူးတိုင်းဒေသကြီး၊ပဲခူးခရိုင်၊ ပဲခူးမြို့နယ်၊ ကော့ရဲ၊ မော်လုံ၊ သာယာကုန်း၊ လသာကုန်း၊ လသာအေး၊ အင်းတကော်၊ ဘုရားငုတ်တို ကျေးရွာအုပ်စုရှိ မြေဧရိယာ(၂၄၅၄.၉၈)ဧကတွင် ပဲခူးစက်မှုမြို့တော်တည်ဆောက်ခြင်းအတွက် စက်မှု ဥယျာဉ်ဖော်ထုတ်ခြင်းနှင့် ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အပေါ် ၂၀၁၇ ခုနှစ်၊မတ်လ ၁၃ ရက်နေ့တွင် ကျင်းပသည့် ကော်မရှင်၏ ၅/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်အရ အဆိုပြုလုပ်ငန်း၏ Project Plan နှင့် Phase တစ်ခုချင်းအလိုက် ဆောင်ရွက်မည့် အစီအစဉ်အသေးစိတ်ကို ပြုစု၍ ကော်မရှင်သို့ တင်ပြရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

2017 Letter 188

နောက်ဆက်တွဲ-င

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန (?)
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ECD/၀၁( [illegible] )
ရက်စွဲ ၊ ၂၀၁၆ခုနှစ် မတ် လ [illegible] ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Hantharwady Development Public Co.,Ltd မှ ဟံသာဝတီစက်မှုဥယျာဉ်စီမံကိန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၂၄/ ၂၀၁၆(၂၁၈-၀)

၁။ Hantharwady Development Public Co.,Ltd သည် ပဲခူးတိုင်းဒေသကြီး၊ အင်းတကော်မြို့နယ်၊ ကော့ချဲကျေးရွာ၊ ဘုရားငုတ်တိုကျေးရွာ၊ လသာကုန်းကျေးရွာ၊ လသာအေးကျေးရွာရှိ မြေ ၂၅၀၀ဧကအကျယ်အဝန်းတွင် ဟံသာဝတီစက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ(၅၀ )နှစ်ဖြစ်ပြီးတည်ဆောက်ရေးကာလမှာ အပိုင်း(၁)ပိုင်းလျှင်(၂)နှစ်နှုန်းဖြင့် အပိုင်း(၃)ပိုင်းအတွက်(၆)နှစ်ဖြစ်ကြောင်း Phase I မှာမြေ ၈၉၈.၁၀ ဧကရှိပြီး၊ Phase II မှာမြေ ၆၇၈.၂၀ ဧကရှိကာ Phase III တွင်မြေ ၉၂၃.၇၀ ဧကဆောင်ရွက်မည်ဖြစ်ကြောင်း၊ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့်သက်သာချောင်ချိရေးစီမံချက်များကိုလည်းထားရှိ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးဆိုင်ရာတာဝန်ယူပူးပေါင်းဆောင်ရွက်မှု (Corporate Social Responsibility -CSR )လုပ်ငန်းများတွင် ထည့်သွင်းအသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental

Management Plan – EMP)အားရေးဆွဲ၍အဆိုပြုလွှာတွင် ပူးတွဲတင်ပြထားကြောင်းတွေ့ရှိရပါသည်။

၃။ Hantharwady Development Public Co.,Ltd မှ ဟံသာဝတီစက်မှုဥယျာဉ်စီမံကိန်းများ ဆောင်ရွက်ခြင်းကြောင့် မြေသားပြုပြင်ဖော်ထုတ်ရာမှထွက်ရှိလာမည့် အမှုန်အမွှား၊ ဖုန်မှုန့်များကြောင့်လေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်းသုံးစက်များ၊ ယာဉ်များနှင့် ယာဉ်ယန္တရားများ၏ဆူညံသံကြောင့် အသံညစ်ညမ်းခြင်း၊ စွန့်ပစ်အမဲဆီ၊ အင်ဂျင်ဝိုင်၊ စက်မောင်းဆီနှင့်အခြား စက်ဆီချောဆီများကြောင့် ပတ်ဝန်းကျင်မြေထုနှင့်ရေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ မီးဘေးအန္တရာယ်ဖြစ်ပေါ်နိုင်ခြင်း၊ အလုပ်သမားများ၏စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ရေထု၊ လေထု၊ မြေထုညစ်ညမ်းခြင်း၊ စီမံကိန်းလုပ်ငန်းများကြောင့် ရှေးဟောင်းအမွေအနှစ်ဘာသာရေးအဆောက်အအုံများ ထိခိုက်စေနိုင်ခြင်း၊ အများပြည်သူများ၏ ဥယျာဉ်သီးနှံလယ်ယာမြေများအား ထိခိုက်ပျက်စီးစေနိုင်ခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Hantharwady Development Public Co.,Ltd မှ ဟံသာဝတီစက်မှုဥယျာဉ်စီမံကိန်းများ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ယူမှုပေါင်းဆောင်ရွက်မှု (Corporate Social Responsibility-CSR )အတွက်အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းတို့အပါအဝင်ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး( သို့မဟုတ် )ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်

ခြင်း ( Environmental Impact Assessment – EIA ) ကိုဆောင်ရွက်ပြီးအစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်နှင့် လူတို့၏ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့်လုပ်ငန်းအစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်နှင့် စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan - EMP )အား ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ပန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၂၁ /ဌာနခွဲ -၂ / MIC / ၂၀၁၆ (စီ ၄၂၉)
ရက် စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ ဟံသာဝတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်ဆိုင်သော ကုမ္ပဏီလီမိတက် ၏ အဆိုပြု စီမံကိန်းများအပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီ လ (၁၇) ရက်နေ့စွဲပါစာအမှတ် ၊ ရက-၄/မ-၁၅၂၃/ ၂၀၁၆(၂၃၇) ၊ ရက-၄/မ-၁၅၂၄/ ၂၀၁၆(၂၄၂) ၊ ရက-၄/မ-၁၅၂၅/ ၂၀၁၆(၂၄၈)

(၂) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီ လ (၂၄) ရက်နေ့စွဲပါစာအမှတ် ၊ ၈/၁-၂/ဦးစ(၀၄၃)(၀၄၄)နှင့်(၀၄၅)

၁။ ဟံသာဝတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက်မှ ပဲခူးတိုင်းဒေသကြီး၊ အင်းတကော်မြို့နယ်၊ ကော့ချဲ့ကျေးရွာ၊ ဘုရားငုတ်တိုကျေးရွာ၊ လသာကုန်းကျေးရွာ၊ လသာအေးကျေးရွာရှိ မြေဧက(၂၅၀၀)တွင် ဟံသာဝတီစက်မှုဥယျာဉ်စီမံကိန်း ၊ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့နယ် ၊ အထူးဇုန်(၄) ၊ ဦးပိုင်အမှတ်(၄၀-က ၊ ခ နှင့် ဃ) ရှိ စုစုပေါင်း မြေ(၂၆၉.၄၅)ဧကတွင် ဟံသာဝတီအိမ်ရာစီမံကိန်း နှင့် ပဲခူးတိုင်းဒေသကြီး ၊ အင်းတကော်မြို့နယ် ၊ ရပ်ကွက်(၁ ၊ ၂ ၊ ၃ ၊၆)၊ ရန်ကုန် - ပဲခူး အမှတ်(၁)လမ်းမကြီးအနီးရှိ မြေ (၂၄၅၅.၇၇) ဧကတို့တွင် ဟံသာဝတီဂေဟာဝန်းကျင် အဆင့်မြင့်အိမ်ရာစီမံကိန်းများ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း နှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် နှင့် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ တို့မှ ရည်ညွှန်း ချက်ပါစာများဖြင့် တောင်းခံလာပါသည်။

၂။ အဆိုပြုစီမံကိန်း တည်နေရာများ၏ လက်ရှိအခြေအနေ ၊ နောင်တွင် ဖြစ်ပေါ်လာမည့် ဖွံ့ဖြိုးတိုးတက်မှုအလားအလာ ၊ တည်ရှိနေသောအရင်းအမြစ်များနှင့် လိုက်လျောညီထွေမှု ရှိ/မရှိ ကို လေ့လာဆန်းစစ်ခဲ့ရာ အောက်ပါအတိုင်းတွေ့ရှိရပါသည် -

**(က) အဆိုပြုပဲခူးမြို့သစ်စီမံကိန်း(၂၆၉.၄၅ဧက) ဆန်းစစ်ချက်။** အဆိုပြု စီမံကိန်း ပုံစံ မြေအသုံးချမှုကို လေ့လာကြည့်ပါက လူနေထိုင်မှု ရာခိုင်နှုန်းသည် (၃၅) ရာခိုင်နှုန်းခန့် လျာထားသည်ဖြစ်၍ သင့်လျော်သည့် မြေအသုံးပြုမှု ရှိသည်ကို

ကန့်သတ်

တွေ့ရှိရပါကြောင်း။ လူဦးရေသိပ်သည်းမှုပမာဏ [illegible] စီမံကိန်း မြေ အသုံးချမှုများ၏ ရေိယာများကို ဖော်ပြထားခြင်းမရှိသည်ကို လေ့လာတွေ့ရှိရပါသည်။ မြေအသုံးပြုမှုတွင် ဟံသာဝတီအပြည်ပြည်ဆိုင်ရာ လေဆိပ် နှင့် ဆက်စပ်၍ လိုအပ်မည့် ဝန်ဆောင်မှုဇုန်များ နှင့် စီမံခန့်ခွဲမှုဇုန်များ ထည့်သွင်းရန် လိုအပ်ကြောင်း လေ့လာတွေ့ရှိရပါသည်။

(ခ) အကြံပြုချက်များ

(၁) စီမံကိန်းပုံစံတွင် Road Network and Utility Services အတွက် မြေအသုံးချမှုနှင့် အပြည်ပြည်ဆိုင်ရာလေဆိပ် ဝန်ဆောင်မှု နှင့် ဆက်စပ်၍ လိုအပ်မည့် Institution and Administration အတွက် မြေအသုံးချမှုများကို ပိုမို၍ ထည့်သွင်းစဉ်းစားပေးရန် လိုအပ်ကြောင်း အကြံပြုပါသည်။

(၂) အဆိုပြုစီမံကိန်းသည် နောင်တစ်ချိန်တွင် ဖွံ့ဖြိုးတိုးတက်လာမည့် အပြည်ပြည်ဆိုင်ရာလေဆိပ်ဝင်ပေါက် အဓိကနေရာတွင်တည်ရှိသဖြင့် ရန်ကုန်-မန္တလေး လမ်းဟောင်း နှင့် အမြန်လမ်းမကြီးသို့ ဆက်သွယ်ရေးကောင်းမွန်ရန် ဆက်စပ်သည့်လမ်းများ ဖောက်လုပ် ဆက်သွယ်ပါက အဆိုပါ စီမံကိန်းဧရိယာနှင့် ဒေသဖွံ့ဖြိုးရေးအတွက်များစွာ အထောက်အကူပြုမည်ဖြစ်ကြောင်း အကြံပြုပါသည်။

(၃) စီမံကိန်းဧရိယာအတွင်းတွင် သတ်မှတ်ထားသော စိမ်းလန်းမြေနှင့် Utilities Area များကို အခြားမည်သည့် မြေအသုံးပြုမှုအဖြစ် ပြောင်းလဲ အသုံးချခြင်း မပြုရန် လိုအပ်မည်ဖြစ်ပါသည်။

(၄) အဆိုပြုမြို့သစ်စီမံကိန်း၏ မြေအသုံးချမှုများအား အောက်ပါ သတ်မှတ်ချက်များနှင့်အညီ ရေးဆွဲ ဆောင်ရွက်ရပါမည် -

| | | |
|---|---|---|
| (ကက) | Building Coverage Ratio (BCR) | (၄၀%) မှ (၅၀%) |
| (ခခ) | Floor Area Ratio (FAR) | (၁.၅) မှ (၂.၅) |
| (ဂဂ) | လမ်းအသုံးပြုမှု | ၂၀ % (အနည်းဆုံး) |
| (ဃဃ) | စိမ်းလန်းမြေ | (၅%) မှ (၁၀%) |
| (ငင) | MixUsed(စီးပွားရေးအသုံးပြုမှု) (Total Floor Area) | (၃၀%) မှ (၄၀% ) |
| (စစ) | လူဦးရေသိပ်သည်းမှု | ၂၅၀ ဦး/ဧက (အများဆုံး) |

(ဂ) အဆိုပြုဂေဟာဝန်းကျင် အဆင့်မြင့်အိမ်ရာစီမံကိန်း (ဧက ၂၄၅၅.၇၅) ဆန်းစစ်ချက်

(၁) အဆိုပြု စီမံကိန်းမြေအသုံးချမှုပုံစံတွင် အဆင့်မြင့်လူနေအိမ်ရာများ ၊ ဂေါက်ကွင်း အိမ်ရာများ ၊ ဟိုတယ်ဇုန်များ၊ သဘာဝဥယျာဉ်များ (Natural Park)၊ ကစားကွင်း နှင့် ပန်းခြံများ ၊ ဆေးရုံ နှင့် ကျောင်းများ ၊ ဂေါက်ကွင်း စသည့်မြေအသုံးချမှုပုံစံ အမျိုးမျိုးကို ယှည့်သွင်းရေးဆွဲ ထားသည် ကိုတွေ့ရှိရပါသည်။ စီမံကိန်းဧရိယာ၏ မြောက်ဘက်တွင် လက်ရှိဖော်ထုတ် ထားသည့် ဟံသာဝတီဂေါက်ကွင်း တည်ရှိပြီး ဖြစ်သော်လည်း အဆိုပြု စီမံကိန်းတွင် ဂေါက်ကွင်းတစ်ခုကို ထည့်သွင်း အဆိုပြု ထားသည်ကို တွေ့ရှိ ရပါသည်။

(၂) အဆိုပြုစီမံကိန်းဧရိယာအတွင်း၌ ရွှေပြည်(၃)ရေလှောင်ကန် နှင့် ၎င်း၏ ရေဝင် ရေလွှဲ ဧရိယာများ တည်ရှိနေသောကြောင့် သဘာဝအရင်းအမြစ်နှင့် ဇီဝမျိုးစိတ် များ ပျက်စီးဆုံးရှုံးမှု မရှိစေရန်အတွက် လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာန ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့၏ သတ်မှတ်ချက်များ နှင့်အညီ ညှိနှိုင်းဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ကြောင်း သုံးသပ်တွေ့ရှိရပါသည်။

(ဃ) အကြံပြုချက်များ

(၁) စီမံကိန်းဧရိယာအတွင်းတွင် သတ်မှတ်ထားသော စိမ်းလန်းမြေနှင့် Utilities Area များကို အခြားမည်သည့် မြေအသုံးပြုမှုအဖြစ် ပြောင်းလဲအသုံးချခြင်း မပြုရန်လိုအပ်မည် ဖြစ်ပါသည်။

(၂) အဆိုပြုစီမံကိန်းသည် ဧက (၂၄၅၅.၇၅)ခန့် ကျယ်ဝန်းသည့်အတွက် စီမံကိန်းဧရိယာသည် ဧက(၅၀၀)နှင့် အထက်ရှိ အိမ်ရာဖွံ့ဖြိုးရေး စီမံကိန်း များ သည် ပတ်ဝန်းကျင် ထိန်းသိမ်းရေး လုပ်ထုံးလုပ်နည်း ဥပဒေအရ Environmental Impact Assessment (EIA) နှင့် Social Impact Assessment (SIA) များ၊ Cooperative Social Responsibilities(CSR) အစီအစဉ်များ ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါသည်။ သို့ဖြစ်ပါ၍ သဘာဝပတ်ဝန်းကျင်အား မထိခိုက်စေဘဲ၊ လူမှုရေးနှင့် စီးပွားရေးအတွက် ပိုမိုအကျိုးရှိစေမည့် သင့်လျော်သော အတိုင်းအတာဖြင့်သာ စီမံကိန်း ဆောင်ရွက် သင့်ကြောင်းအကြံပြုအပ်ပါသည်။

(၃) အဆိုပြု အိမ်ရာစီမံကိန်းများ၏ တင်ပြလာမှုသည် သဘောတရားပုံစံအဆင့် (Conceptual Plan)သာဖြစ်ပြီး Details Master Plan များကိုဆက်လက် ရေးဆွဲဆောင်ရွက်ရန် လိုအပ်ပါသည်။ အဆိုပါ Master Plan တွင်

လမ်းတွန်းလက်စနစ်များ ၊ မျှော်စင်မီး နှင့် ရေရရှိရေး စောင့်ရှောက်မှုနည်း အစီအမံများ၊ အသေးစိတ်မြေအသုံးချမှုပုံစံများအပြင် နှစ်အလိုက် နှင့် အဆင့်လိုက် အကောင်အထည်ဖော်ဆောင်ရွက်မည့် အစီအစဉ် ဖော်ပြရန် လိုအပ်ပါ သည်။

(၄) အဆိုပြု အဆင့်မြင့်အိမ်ရာစီမံကိန်း၏ မြေအသုံးချမှုများအား အောက်ပါ သတ်မှတ်ချက် များနှင့် အညီဆောင်ရွက်ရပါမည် -

| | | |
|---|---|---|
| (က) | Building Coverage Ratio (BCR) | (၄၀%) မှ (၅၀%) |
| (ခ) | Floor Area Ratio (FAR) | (၁.၅) မှ (၂.၅) |
| (ဂ) | လမ်းအသုံးပြုမှု | ၂၀ % (အနည်းဆုံး) |
| (ဃ) | စိမ်းလန်းမြေ | (၅%) မှ (၁၀%) |
| (င) | MixUsed(စီးပွားရေးအသုံးပြုမှု) (Total Floor Area) | (၃၀%) မှ (၄၀% ) |
| (စ) | လူဦးရေသိပ်သည်းမှု | ၂၀၀ ဦး/ဧက (အများဆုံး) |

(င) ဟံသာဝတီစက်မှုဥယျာဉ်မြို့ စီမံကိန်း (၂၅၀၀ဧက) ဆန်းစစ်ချက်

(၁) အဆိုပြုစက်မှုဥယျာဉ်စီမံကိန်း၏ အကျယ်အဝန်းသည် ( ၂၅၀၀) ဧကခန့်ရှိပြီး မြေအသုံးချမှု အနေဖြင့် လူနေဇုန် (Residential)၊ အုပ်ချုပ်ရေးနှင့် ဝန်ဆောင်မှုဇုန် (Public administration and service estate)၊ စီးပွားရေးဝန်ဆောင်မှုဇုန် (Commercial Service Establishment)၊ စက်မှုကုန်ထုတ်ဇုန်(Industrial Land)နှင့် စိမ်းလန်းဇုန်များ(Green space)၊ ထည့်သွင်းရေးဆွဲ ထားသည့် Concept Plan ပုံစံဖြစ်ပါသည်။

(၂) အဆိုပြုစက်မှုမြို့စီမံကိန်းတွင်ဖောက်လုပ်မည့် ပေ(၄၀)၊ ပေ(၆၀)၊ ပေ(၈၀) နှင့်ပေ(၁၀၀) လမ်းများကို Road Traffic analysis အဖြစ် ဖော်ပြ ထားသော်လည်း လမ်းဧရိယာအချိုးအစားများကို ထည့်သွင်းဖော်ပြထားခြင်း မရှိသည်ကို တွေ့ရှိရပါသည်။ မဟာဓါတ်အားလိုင်းဝဲ/ယာတွင်လည်း ကြားခံမြေများ (Buffer Area) ထားရှိသွားရန် လိုအပ်ပါမည်။

(၃) စက်မှုမြို့၏ ပင်မဆက်သွယ်ရေးလမ်းကြောင်းသည် ကဝမှ ရန်ကုန်-မန္တလေး လမ်း ဟောင်းသို့ ဆက်သွယ်သည့် လမ်းကိုအခြေခံထားသည်ကို တွေ့ရှိရ ပါသည်။ အဆိုပါ စက်မှုမြို့ တည်နေရာမှ ရန်ကုန် - မန္တလေး ကားလမ်းသို့ ဆက်သွယ်ရေးလမ်းကြောင်း ကောင်းမွန်စေရန်အတွက် (၉)မိုင်အရှည်ရှိ

...တို့ အဆင့်မြှင့်တင်ဆောင်ရွက် ... ဖြစ်ပေါ်လျက် ရှိပါသည်။

(ဂ) အကြံပြုချက်များ

(၁) စီမံကိန်းဧရိယာအတွင်းတွင် သတ်မှတ်ထားသော စိမ်းလန်းမြေနှင့် Utilities Area များကို အခြားမည်သည့် မြေအသုံးပြုမှုပုံစံ ပြောင်းလဲ အသုံးချခြင်း မပြုရန် လိုအပ်မည် ဖြစ်ပါသည်။

(၂) အဆိုပြု စက်မှုဥယျာဉ်စီမံကိန်း၏ မြေအသုံးချမှုများအား အောက်ပါ သတ်မှတ်ချက်များ နှင့်အညီ ရေးဆွဲဆောင်ရွက်ရပါမည် -

| | | |
|---|---|---|
| (ကက) | Building Coverage Ratio (BCR) | (၆၀%) မှ (၇၀%) |
| (ခခ) | Floor Area Ratio (FAR) | (၁.၅) မှ (၂.၅) |
| (ဂဂ) | လမ်းအသုံးပြုမှု | ၂၀ % (အနည်းဆုံး) |
| (ဃဃ) | စိမ်းလန်းမြေ | (၅%) မှ (၁၀%) |
| (ငင) | MixUsed(စီးပွားရေးအသုံးပြုမှု) (Total Floor Area) | (၃၀%) မှ (၄၀% |
| (စစ) | လူဦးရေသိပ်သည်းမှု | ၂၀၀ ဦး/ဧက (အများဆုံး) |

၃။ အဆိုပြုစီမံကိန်းများအားလုံး Concept Plan အဆင့်မှ အခြေခံအဆောက်အဦ စီမံကိန်းပုံစံ Infrastructure Plan ၊ Master Plan နှင့် အကောင်အထည်ဖော်ရန် Detail Plan များ ဆက်လက်ရေးဆွဲ၍ သက်ဆိုင်ရာ ဌာနအဖွဲ့အစည်းများထံမှ အတည်ပြုချက်ရယူ၍ ဆောင်ရွက်ရန် လိုအပ်ပါသည်။

၄။ မြေဧက(၂၀၀) အထက်ရှိသော ဖွံ့ဖြိုးရေးစီမံကိန်းလုပ်ငန်းများ ဖြစ်သောကြောင့် မြေစီမံခန့်ခွဲမှု (Land Management) နှင့် မြေပုံရေးဆွဲ ထိန်းသိမ်းခြင်း (Land Record) တို့ကို သက်ဆိုင်ရာ အစိုးရဌာနအဖွဲ့အစည်းတစ်ခုခုမှ စီမံခန့်ခွဲခြင်းများ ဆောင်ရွက်ရန် လိုအပ်ပါမည်။

**နယ်မြေဒေသဖွံ့ဖြိုးရေးအကြံပြုတင်ပြချက်**

၅။ ရန်ကုန်မြို့၏ ကြီးထွားလာသည့် ကျပ်တည်းမှုများကိုဖြေလျော့နိုင်ရန် ရန်ကုန်မြို့လယ်ကို ဗဟိုပြုသည့်စနစ်မှ မြို့ပြင်များသို့ ဖွံ့ဖြိုးမှုခွဲထွင်သည့် နည်းလမ်းဖြင့်မြို့ပြစီမံကိန်းများ ရေးဆွဲဆောင်ရွက်လျက်ရှိရာ ရန်ကုန်မြို့နှင့်ပဲခူးမြို့အကြား နေရာဒေသများ၏ ဖွံ့ဖြိုးမှုအလားအလာမှာ အကောင်းဆုံးဖြစ်ပါသည်။အဆိုပါဒေသများသည် ရေအရင်းအမြစ်များကို အလွယ်တကူရယူသုံးစွဲနိုင်သည့် ဒေသများဖြစ်ပြီး ဆက်သွယ်ရေးလမ်းကြောင်းများဖြစ်သည့် ရန်ကုန်မြို့မှ ပဲခူးတိုင်း

[illegible] ရန်ကုန် - မန္တလေးအမြန်လမ်း၊ ရန်ကုန် - မန္တလေးလမ်းမကြီး ၊ ရန်ကုန် - မန္တလေးရထားလမ်း စသည့် ဆက်သွယ်ရေးလမ်းကြောင်းများ အကြားတွင် တည်ရှိနေသောကြောင့် ဖြစ်ပါသည်။

၆။ လက်ရှိအချိန်တွင် ကဝမှ ရန်ကုန် - မန္တလေးအမြန်လမ်းသို့ ဆက်သွယ်သည့် လမ်းကြောင်းနှင့် ဒါးပိန်မှ ရန်ကုန် - မန္တလေးအမြန်လမ်းသို့ ဆက်သွယ်သည့် လမ်းကြောင်းများတည်ရှိပြီးဖြစ်သဖြင့် ရန်ကုန်-မန္တလေးရထားလမ်းနှင့် အပြိုင် ပဲခူးမြို့မှ ဒါးပိန်ထိ လမ်းကြောင်းကို ဖော်ထုတ်နိုင်မည်ဆိုပါယ ပဲခူးတိုင်းဒေသကြီးတောင်ပိုင်းကို အခြေပြုသော ဒေသဖွံ့ဖြိုးရေး လမ်းကြောင်းကြီး တစ်ခုဖြစ်ပေါ်လာပြီး ပဲခူးမြို့ နှင့် ရန်ကုန်မြို့ အကြား မြို့ငယ်များနှင့် ကျေးရွာများသည် အလျင်အမြန် ဖွံ့ဖြိုးလာမည်ဖြစ်သည်။ထို့အပြင်အဆိုပြု ပဲခူး - ဒါးပိန် လမ်းကြောင်းသည် ဟံသာဝတီအပြည်ပြည်ဆိုင်ရာလေယာဉ်ကွင်းနှင့် သီလဝါ အထူး စီးပွားရေးဇုန်တို့ကို (လေကြောင်းအခြေပြုစီးပွားရေးဇုန်)နှင့် ဆက်စပ်ပေးမည့် ဝန်ဆောင်မှု လမ်းမကြီး အနေဖြင့် လည်း တည်ရှိလာမည်ဖြစ်ပါသည်။

၇။ စက်မှုဇုန်များသည် အလုပ်အကိုင် ၊ အခွင့်အလမ်းများကို ဖော်ထုတ်နိုင်ပြီး ဒေသစီးပွားဖွံ့ဖြိုး တိုးတက်ရေး အတွက်များစွာအထောက်အကူပြုနိုင်ပါသည်။ သို့သော် ရန်ကုန်မြို့တွင် လက်ရှိဖော်ထုတ် ထားသည့် စက်မှုမြေဇုန်ကေပေါင်းမှာ (၁၀၀၀၀)ကျော်တွင် စက်မှုအကွက်ပေါင်း (၅၀၀၀)ခန့် ဖော်ထုတ်ပြီး ဖြစ်သော်လည်းစက်မှုဇုန်များ၏ လျှပ်စစ်မီး ၊ ရေရရှိမှုနှင့် ရေဆိုးသန့်စင်စနစ်စသည်တို့မှာ လိုအပ်ချက်များရှိနေဆဲဖြစ်သောကြောင့် အဆိုပါ စက်မှုဇုန် ဖော်ထုတ်မည့်ဧရိယာနှင့်ပတ်ဝန်းကျင်တွင် ဖြည့်ဆည်းပေးနိုင်ရန် လိုအပ်မည့်အခြေခံ အဆောက်အအုံ အခြေအနေတို့ကို လေ့လာဆန်းစစ် တွက်ချက်ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါသည်။ အလားတူမြေအသုံးပြုမှု ပြောင်းလဲခြင်းဆိုင်ရာ အခြေအနေများအား ဆန်းစစ်ရန် လည်း လိုအပ်ပါမည်။

၈။ အပြည်ပြည်ဆိုင်ရာလေယာဉ်ကွင်းစီမံကိန်း ၊ သီလဝါအထူးစီးပွားရေးဇုန် ၊ အဆိုပြု ထားသည့် ပဲခူးစက်မှုမြို့တို့နှင့် ဆက်စပ်၍ နောင်တစ်ချိန်တွင် ပဲခူးမြို့သည် နိုင်ငံရပ်ခြား ခရီးသွား များ တိုးတက်များပြားလာမည်မှာ မလွဲမသွေဖြစ်ပါသည်။သို့ဖြစ်ပါ၍ အဆိုပြုတင်ပြလာသည့် မြို့ပြ ဖွံ့ဖြိုးရေးစီမံကိန်းများသည် နောင်တစ်ချိန်တွင် အကောင်အထည်ဖော်ဆောင်ရွက်ရမည့် နိုင်ငံ တကာအဆင့်မီ လေဆိပ်မြို့တော် (Airotropolis) ၏ အစိတ်အပိုင်းတစ်ခုအဖြစ် ပါဝင် နေမည် ဖြစ်ပါသည်။ ထို့ကြောင့် စီမံကိန်းများ ရေးဆွဲဆောင်ရွက် အကောင်အထည်ဖော်သည့် အခါ Planning Guide Line and Regulation များနှင့်အညီပုံစံရေးဆွဲ ဆောင်ရွက် အကောင် အထည်ဖော်မှသာလျှင် လေဆိပ်မြို့တော် (Airotropolis) တစ်ခု၏ အင်္ဂါရပ်ဖြစ်သော Green Land and Green City အနေဖြင့် ရပ်တည်နေနိုင်မည် ဖြစ်ပါသည်။

၉။ ထို့ကြောင့် ပဲခူးတိုင်းဒေသကြီးအတွင်းဆောင်ရွက်ရန် အဆိုပြုတင်ပြလာသည့် အထက်ဖော်ပြပါ ပဲခူးမြို့သစ်စီမံကိန်း၊ Eco Resort စီမံကိန်းနှင့် စက်မှုမြို့စီမံကိန်းများအားဆက်စပ်၍ နယ်မြေဒေသဖွံ့ဖြိုးရေးအတွက် အထောက်အကူပြုစေရန် လူမှုရေး ၊ စီးပွားရေး ၊ လမ်းပန်းဆက်သွယ်ရေး၊ သယ်ယူပို့ဆောင်ရေးတို့ကို ရှုထောင့်စုံမှ ထည့်သွင်းစဉ်းစား၍ သတ်မှတ်ထားသော ဥပဒေ၊ နည်းဥပဒေများ နှင့်အညီ ဆောင်ရွက်သင့်ပါကြောင်း အကြံပြုတင်ပြအပ်ပါသည်။

**စီမံကိန်းများနှင့်အကျိုးစီးပွားရလာဒ်ဆန်းစစ်ရန်လိုအပ်ခြင်း**

၁၀။ ပဲခူးတိုင်းဒေသကြီးအတွင်း အမြန်လမ်းမကြီးဘေးကတ်လျှောက်မိုင်(၄၀)၊(၁၄၅)မိုင်ခန့်နှင့် (၁၅၀) မိုင်ခန့်တို့တွင် ပုဂ္ဂလိကမှ စက်မှုဇုန်ထူထောင်ခြင်းလုပ်ငန်းများနှင့် ပဲခူးတိုင်းဒေသကြီး၊ အင်းတကော် မြို့နယ်၊ ဟံသာဝတီ စက်မှုဥယျာဉ်စီမံကိန်းမြေ (၂၅၀၀)ဧက၊ အင်းတကော်မြို့နယ်၊ ဟံသာဝတီဂေဟ ဝန်းကျင်အဆင့်မြင့် အိမ်ရာစီမံကိန်းမြေ (၂၄၅၅.၇၇)ဧက နှင့် ပဲခူးမြို့နယ်၊ ဟံသာဝတီအိမ်ရာစီမံကိန်း မြေ(၂၆၉.၄၅)ဧက တည်ဆောက်ရန် အစီအစဉ်များလည်း ရှိနေပါသည်။ နယ်မြေဒေသဖွံ့ဖြိုးရေး (Special Planning)အရ ဆန်းစစ်ပါက မြေအကျယ်အဝန်းပမာဏ ကြီးမားသည့် စက်မှုဇုန်များကို ဒေသတစ်ခုအတွင်း တစ်ပြိုင်နက် တည်ဆောက်ခြင်းဖြင့် ပေါ်ပေါက်လာမည့် အကျိုးသက်ရောက်မှု (Impact)များကို သေချာစွာ ဘက်စုံလေ့လာသည့် ပဏာမအဆင့် ဆန်းစစ်မှုများ ပြုလုပ်ရန်အထူး လိုအပ်ပါမည်။

၁၁။ နောင်လာမည့်(၅)နှစ်မှ (၁၀)နှစ်ကာလအတွင်း ထူထောင်ဆောင်ရွက်ရန် လျာထားသည့် မြို့ပြဖွံ့ဖြိုးရေးလုပ်ငန်းများနှင့် စက်မှုဇုန်ထူထောင်ရေးလုပ်ငန်းများသည် အစိုးရ၊ ပုဂ္ဂလိက ၊ ရင်းနှီးမြှုပ်နှံသူများနှင့် အများပြည်သူတို့အတွက် ရေရှည်စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်မှု (Sustainable Development)နှင့် ပတ်ဝန်းကျင်ထိခိုက်မှု မရှိစေဘဲ စီးပွားရေး အကျိုးရလဒ်ကောင်းများလည်း ရရှိစေရန်အတွက် ကျွမ်းကျင်သူအတိုင်ပင်ခံအဖွဲ့အစည်း (Consultant Farm) များဖြင့် Business Plan ကို ဘက်စုံရှုထောင့်စုံမှ ထည့်သွင်းစဉ်းစား၍ အချိန်ယူရေးဆွဲပြီး အဆင့်အလိုက် (Phase by Phase) အကောင်အထည်ဖော် ဆောင်ရွက်သွားရန် လိုအပ်ပါမည်။

၁၂။ နယ်မြေဒေသဖွံ့ဖြိုးတိုးတက်ရေးဆိုင်ရာ ရေရှည်ဖွံ့ဖြိုးမှု အစီအမံများ ချမှတ်၍ ပဏာမဖြစ်တန် စွမ်းလေ့လာမှု အစီရင်ခံစာအရ ဆောင်ရွက်မည့် လူမှုစီးပွားပတ်ဝန်းကျင်ဆိုင်ရာ ၊ မြို့ပြစီမံကိန်းဆိုင်ရာ စီမံကိန်းများအား စနစ်တကျနှင့် နည်းပညာလိုအပ်ချက်များကိုပါ ထည့်သွင်းတွက်ချက်ရန် စနစ်တကျ ဆောင်ရွက်သင့်ပါသည်။ မြေအသုံးပြုမှုများတွင် တန်ဖိုးရှိ၍ အစားပြန်လည်မရနိုင်သော အရင်းအမြစ်များ (Non-renewable resources) ဆုံးရှုံးခြင်းမှ ကာကွယ်တားဆီးရန်လည်း လိုအပ်ပါမည်။ဥပဒေ၊နည်းဥပဒေ၊လုပ်ထုံးလုပ်နည်းများ၊စည်းမျဉ်း၊ စည်းကမ်းများနှင့် ခိုင်မာသောအဖွဲ့အစည်း အုပ်ချုပ်မှုစနစ်ကို ထူထောင်၍ စနစ်တကျ စီမံခန့်ခွဲခြင်းဖြင့် ရေရှည်စဉ်ဆက်မပြတ်ဖွံ့ဖြိုးမှု(Sustainable Development ) ကို ရရှိစေပါမည်။ အနာဂတ်တွင်

ဆောင်ရွက်မည့် မြို့ပြဖွံ့ဖြိုးရေးအစီအစဉ်များကို Green City and Green Growth Concept ဖြင့် စီမံကိန်းများရေးဆွဲခြင်း၊ ပွင့်လင်းမြင်သာစွာဖြင့် အကောင်အထည်ဖော်မှု အစီအစဉ်များ ဆောင်ရွက်ခြင်းတို့ဖြင့် နိုင်ငံတကာအဆင့်မီ ဆောင်ရွက်သွားသင့်ပါကြောင်း သဘောထားမှတ်ချက်အား ပြန်ကြားအပ်ပါသည်။

**ပူးတွဲ**

- အဆိုပြုတင်ပြလာသော စီမံကိန်းဆိုင်ရာ အချက်အလက်များ

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ကျော်လင်း ၊ အမြဲတမ်းအတွင်းဝန်

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ် ၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန။
- ညွှန်ကြားရေးမှူး၊မြို့ပြနှင့်ဒေသဖွံ့ဖြိုးရေးဌာနခွဲ၊မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန။

# အဆိုပြုတင်ပြလာသော စီမံကိန်းဆိုင်ရာအချက်အလက်များ

| စဉ် | အကြောင်းအရာ | ပဲခူးမြို့သစ် စီမံကိန်း | ဂေဟာဝန်းကျင် အဆင့်မြင့်အိမ်ရာ စီမံကိန်း | စက်မှုဥယျာဉ်စီမံကိန်း |
|---|---|---|---|---|
| ၁။ | တည်နေရာ | ရန်ကုန်-မန္တလေးကားလမ်း၏ အနောက်ဘက်၊ပဲခူးမြို့၏ တောင်ဘက် (၅.၆) မိုင် ခန့်အကွာအနောက်မြောက်ဘက်တွင်ဟံသာဝတီအပြည်ပြည်ဆိုင်ရာလေယာဉ်ကွင်း၊အရှေ့ မြောက်ဘက်တွင် ပဲခူးတက္ကသိုလ်၊ တောင်ဘက်တွင်ပဲခူးတိုက်ကြီးကားလမ်း | ပဲခူးမြို့၏တောင်ဘက်(၁၀)မိုင်ခန့် အကွာ စီမံကိန်းဧရိယာ၏ အရှေ့ဘက်တွင်ရန်ကုန်-မန္တလေးကားလမ်း၊ အနောက်ဘက်နှင့်တောင် ဘက် တွင် စိုက်ပျိုးမြေများနှင့် မြောက်ဘက်တွင် ဟံသာဝတီအပြည်ပြည်ဆိုင်ရာ လေယာဉ်ကွင်း | ပဲခူးမြို့၏တောင်ဘက် (၁၇) မိုင်ခန့် အကွာ၊စီမံကိန်းဧရိယာ၏မြောက်ဘက်တွင်ကဝ-ပဲခူး ကားလမ်း၊ အရှေ့ဘက်တွင် ရန်ကုန်-မန္တလေး ရထားလမ်း၊ အနောက်ဘက်နှင့် တောင်ဘက်တွင် ပဲခူးတိုင်းနှင့် ရန်ကုန်တိုင်းကို ပိုင်းခြားထားသည့်လဂွန်းပြင်ချောင်း ရှိပါသည်။ |
| ၂။ | အကျယ်အဝန်း | (၂၆၉.၄၅)ဧကခန့်(၂၀၁၆)<br>(၂၇၉) ဧက (၂၀၁၇) | (၂၄၅၅.၇၇)ဧကခန့်(၂၀၁၆)<br>(၁၀၀၀) ဧက (၂၀၁၇) | (၂၅၀၀)ဧကခန့်(၂၀၁၆)<br>(၁၅၀၀) ဧက (၂၀၁၇) |
| ၃။ | စီမံကိန်းအမျိုးအစား | မြို့သစ်စီမံကိန်း | အဆင့်မြင့်အိမ်ရာစီမံကိန်း | စက်မှုမြို့ |
| ၄။ | ရင်းနှီးမြှုပ်နှံမှု | (၂၇၈၂၆)ကျပ်သန်း | (၁၈၁၄၅၅)ကျပ်သန်း | (၂၂၂၅၄၅)ကျပ်သန်း |
| ၅။ | စီမံကိန်းကာလ | (၂)နှစ် | (၆)နှစ် | (၆)နှစ် |
| ၆။ | လုပ်ငန်းအမျိုးအစား | နိုင်ငံတကာအဆင့်မီအိမ်ရာ စီမံကိန်း၊ တန်းဖိုးသင့်အိမ်ရာများ | နိုင်ငံတကာအဆင့်မီအိမ်ရာ စီမံကိန်း၊ | စားသောက်ကုန်ဆိုင်ရာ၊သစ်အခြေခံ၊ လယ်ယာထွက်ကုန်အခြေခံ၊ သစ် တောထွက်ကုန်၊အထည်ချုပ်၊သတင်းအချက်အလက်နှင့် နည်းပညာအခြေခံ၊ စက်ကိရိယာနှင့်အပိုပစ္စည်းထုတ်လုပ် သည့် စက်မှုလုပ်ငန်း |

| စဉ် | အကြောင်းအရာ | ပဲခူးမြို့သစ် စီမံကိန်း | ဂေဟာဝန်းကျင် အဆင့်မြင့်အိမ်ရာ စီမံကိန်း | စက်မှုဥယျာဉ်စီမံကိန်း |
|---|---|---|---|---|
| ၇။ | လျှပ်စစ်မီးရရှိမှုအခြေအနေ | မြန်မာ့ လျှပ်စစ်ဓာတ်အားလုပ်ငန်းပဲခူးမြို့နယ် ကမာနတ် ဓာတ်အားခွဲရုံမှတဆင့် ရယူပါမည်။ (၁၀)MW | မြန်မာ့ လျှပ်စစ်ဓာတ်အားလုပ်ငန်း ပဲခူးမြို့နယ် ကမာနတ် ဓာတ်အားခွဲရုံမှတဆင့် ရယူပါမည်။ (၆၀)MW | မြန်မာ့ လျှပ်စစ်ဓာတ်အားလုပ်ငန်း ပဲခူးမြို့နယ် ကမာနတ် ဓာတ်အားခွဲရုံမှတဆင့် ရယူပါမည်။ (၁၅၀)MW |
| ၈။ | ရေရရှိမှုအခြေအနေ | - | - | - |
| ၉။ | CSR | ၂% | ၂% | ၂% |
| ၁၀။ | EMP | ရှိ | ရှိ | ရှိ |
| ၁၁။ | EIA | ရေးဆွဲဆဲ | ရေးဆွဲဆဲ | ရေးဆွဲဆဲ |

[illegible]

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ၂/၉၀(က)(၁)(    /၂၀၁၆)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပေးပို့ခြင်း

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၇-၂-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၅၂၆/၂၀၁၆(၂၄၃)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အထက်ရည်ညွှန်းပါစာဖြင့် Hantharwady Development Public Co.,Ltd မှ ပဲခူးတိုင်းဒေသကြီး၊ အင်းတကော်မြို့နယ် ကော့ချဲကျေးရွာ၊ ဘုရားမုတ်ပို ကျေးရွာ၊လသာကုန်းကျေးရွာ၊လာသာအေးကျေးရွာရှိမြေဧရိယာ(၂၅၀၀)ဧက ဟံသာဝတီစက်မှုဥယျာဉ် စီမံကိန်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူဦးခင်မောင်လွင်(အဘ-ဦးလွင်)မှ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြုပေးပါရန် ညှိနှိုင်းလာမှုရှိပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း သဘောထားမှတ်ချက်အား ပြန်ကြားအပ်ပါသည်

(က)အဆိုပြုဧရိယာများသည် ဆည်များ၏ အောက်ပိုင်း လက်ရှိမြို့ရွာများနှင့် တဆက်တစ်စပ်တည်း ဖြစ်ခြင်းကြောင့် ရေဝေရေလဲဧရိယာများမပါရှိပါ။

( ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်သင့်ပါသည်။

(ဂ) မြေနှင့်ပတ်သက်၍ ပြည်ထောင်စုအစိုးရအဖွဲ့၊ မြေအသုံးချမှုစီမံခန့်ခွဲရေးဗဟိုကော်မတီတို့၏ စိစစ်ခွင့်ပြုချက်အားဖြင့် ဆောင်ရွက်ထားရှိခြင်းဖြစ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
- စီမံကိန်းဦးစီးဌာန
- လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
- Hantharwady Development Public Co.,Ltd

ရေနယ်ဝတ်ကွဲ

မြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပို့ဆောင်ရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ်၊ ၇၁ - ဖဆ / ခွဲ (၂)(က)ဟံသာဝတီ(၃/ ၆၁ )

ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်လည် တင်ပြခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၇-၂-၂၀၁၆)ရက်စွဲပါ စာအမှတ်၊ ရက-၄/ မ ၁၅၂၄/ ၂၀၁၆ (၂၄၀)

အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ပဲခူးတိုင်းဒေသကြီး၊ အင်းတကော်မြို့နယ်၊ ကော့ချဲ ကျေးရွာ၊ ဘုရားငုတ်တိုကျေးရွာ၊ ယယာကုန်းကျေးရွာ၊ ယယာဖေးကျေးရွာရှိ မြေ (၂၅၀၀) ဧက အကျယ်အဝန်းတွင် ဟံသာဝတီစက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်းကို Hantharwady Development Public Co., Ltd. မှ ဆောက်လုပ်မည့် ကိစ္စနှင့်ပတ်သက်၍ သဘောထား မှတ်ချက် တင်ပြရန် ရည်ညွှန်းပါစာဖြင့် ပေးပို့လာမှုအပေါ် ကုမ္ပဏီမှ ပေးပို့လာသည့် အချက်အလက်များကို အခြေခံ၍ လေယာဉ်ဆင်းသက်မှုဇုံနှင့် လွတ်ကင်းမှုရှိ/ မရှိ အခြေအနေအား စိစစ်ချက်အရ အောက်ပါ အတိုင်း လေယာဉ်ဆင်းသက်မှုဇုံနှင့် လွတ်ကင်းပါသဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားအပ်ပါသည်-

| စဉ် | အမည် | တည်နေရာ | လျှောက်ထားလာသော အဆောက်အဦ အမြင့် (m) | အဆောက်အဦ၏ A.M.S.L (m) | လေယာဉ်ကွင်း၏ A.M.S.L (m) | ကွင်းမှ အကွာအဝေး (km) | လေယာဉ်ဆင်းသက်မှုဇုန်နှင့် လွတ်ကင်းမှု အခြေအနေ |
|---|---|---|---|---|---|---|---|
| (က) | ဟံသာဝတီ စက်မှုဥယျာဉ် စီမံကိန်း (၂၅၀၀ ဧက) | N 17° 6'<br>E 96° 24' | 15.24 | 16.15 | 45.41 | 20.49 | OLS မှ လွတ်ကင်း မှုရှိပါသည်။ |

(လက်မှတ်)

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
လေကြောင်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၄၂၆၂)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇.၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-၁၅၂၄/၂၀၁၆(၂၄၁)

၁။ Hantharwady Development Public Co.,Ltd. မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ပဲခူးတိုင်းဒေသကြီး၊ အင်းတကော်မြို့နယ်၊ ကော့ချဲကျေးရွာ၊ ဘုရားငုတ်တိုကျေးရွာ၊ လသာကုန်းကျေးရွာ၊ လသာအေးကျေးရွာတို့ရှိ စုစုပေါင်းမြေ(၂,၅၀၀)ဧကတွင် ဟံသာဝတီစက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဟံသာဝတီစက်မှုဥယျာဉ် စီမံကိန်းလုပ်ငန်း လုပ်ကိုင်လိုခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) စီမံကိန်းတည်ဆောက်မည့် စက်မှုလုပ်ငန်းများ၏ လုပ်ငန်းအမျိုးအစားများ ဖော်ပြရန် လိုအပ်ပါသည်။

(ခ) မြေအသုံးချရေးမူဝါဒအရ စက်မှုဥယျာဉ်မြို့တော် ထူထောင်ရာတွင် လမ်း+ Open Space၊ ဆေးရုံ(သို့)ဆေးခန်း၊ အုပ်ချုပ်ရေးရုံး၊ မီးသတ်ဌာန၊ သစ်ပင်ပန်းခြံဧရိယာ၊ စက်မှုလုပ်ငန်းသုံးအဆီပဲ့အတောက်ပစ္စည်းများ စနစ်တကျ စွန့်ပစ်ရေးနှင့် စက်ရုံဧရိယာများ စသည့် အင်္ဂါရပ်များနှင့်အညီ အချိုးအစားမျှတစွာ ဆောင်ရွက်သွားရန် လိုအပ်ပါသည်။

(ဂ) စက်မှုဥယျာဉ်တည်ထောင်ခြင်းသည် ရေရှည်လုပ်ငန်းဖြစ်သဖြင့် ရေ/မီး လိုအပ်ချက်အား ဖြည့်ဆည်းဆောင်ရွက်ရန်၊ စွန့်ပစ်ပစ္စည်းများ၊ ရေဆိုးများမှတစ်ဆင့် ပတ်ဝန်းကျင်ရှိ ရေ၊ လေ၊ မြေကြီး၊ မြေအောက်ရေတို့အား ထိခိုက်မှု မရှိစေရေး အလေးထားဆောင်ရွက်ရန်၊ မြေအရင်းအမြစ်များ ထိရောက်စွာ စီမံခန့်ခွဲရေး

[illegible]

ရှေ့ဆက်၍ မြို့ပြဖွံ့ဖြိုးရေးစီမံချက်များသို့ Green City and Green Growth Concept ဖြင့် စီမံကိန်းများရေးဆွဲခြင်း၊ ပွင့်လင်းမြင်သာစွာဖြင့် အကောင်အထည်ဖော်မှု အစီအစဉ်များ ဆောင်ရွက်ခြင်းတို့ဖြင့် နိုင်ငံတကာအဆင့်မီ ဆောင်ရွက်သွားသင့်ပါကြောင်း သဘောထားမှတ်ချက်အား ပြန်ကြားအပ်ပါသည်။

ပူးတွဲ

- အဆိုပြုတင်ပြလာသော စီမံကိန်းဆိုင်ရာ အချက်အလက်များ

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ကျော်လင်း ၊ အမြဲတမ်းအတွင်းဝန်

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ် ၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန။
ညွှန်ကြားရေးမှူး၊မြို့ပြနှင့်ဒေသဖွံ့ဖြိုးရေးဌာနခွဲ၊မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

စာအမှတ်၊ ၃၈၃/၁၂-ခ/စီမံကိန်း ၃-၆/အဖရ(၂၀၁၆)

ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ဝန်ကြီးချုပ်
ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ အင်းတကော်မြို့ရှိ မြေဧက(၂၅၀၀)တွင် ဟံသာဝတီ စက်မှုဥယျာဉ်စီမံကိန်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြသည့်ကိစ္စ

ရည် ညွှန်း ချက် ။ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၂-၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ၈/ ၁-၁၂/ဦး ၈ (၀၁၁)

ပဲခူးတိုင်းဒေသကြီး၊ အင်းတကော်မြို့၊ ကော့ချဲကျေးရွာ၊ ဘုရားငုတ်တိုကျေးရွာ၊ လသာကုန်းကျေးရွာ၊ လသာအေးကျေးရွာရှိ မြေဧက(၂၅၀၀)တွင် ဟံသာဝတီ စက်မှုဥယျာဉ် စီမံကိန်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ဟံသာဝတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင် သောကုမ္ပဏီလီမိတက်မှ တင်ပြလာကြောင်း၊ လယ (၁၀)လျှောက်ထားနိုင်သည့် မြေ(၂၅၀၀)ဧက တွင် အပိုင်း(၃)ပိုင်းခွဲ၍ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ကုမ္ပဏီမှ လုပ်ငန်းဆောင်ရွက်မည့် မြေ(၂၅၀၀)ဧကအနက် မြေ(၂၂၈၉.၃၇)ဧကအတွက် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ အခြားနည်း အသုံးပြုခွင့် ခွင့်ပြုမိန့် ပုံစံ(၁၅)ဖြင့် ခွင့်ပြုထားပြီးဖြစ်ကြောင်း၊ စီမံကိန်းအား ပဲခူးတိုင်းဒေသကြီး လွှတ်တော်၊ (၁၃)ကြိမ်မြောက် ပုံမှန်အစည်းအဝေး၊ (ပဉ္စမနေ့)တွင် သဘောတူမှတ်တမ်းတင်ပြီး ဖြစ်ကြောင်းနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြထားပြီးဖြစ်ကြောင်း ရည်ညွှန်းစာ ဖြင့် တင်ပြမှုအပေါ် "မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လုပ်ထုံးလုပ်နည်းနှင့်အညီ လုပ်ရန်၊ နောက်အစိုးရသို့ လွှဲပေးရန်" လမ်းညွှန်မှုအား သိရှိဆောင်ရွက်နိုင်ပါရန် အကြောင်းကြားပါသည်။

ဇော်သန်းသင်း
ညွှန်ကြားရေးမှူးချုပ်

မိတ္တူ
- နိုင်ငံတော်သမ္မတရုံး
- သမ္မတဦးစီးရုံး
- ဒုတိယသမ္မတ(၁)ဦးစီးရုံး
- ဒုတိယသမ္မတ(၂)ဦးစီးရုံး
- စီးပွားရေးရာကော်မတီ
- ပြည်ထဲရေးဝန်ကြီးဌာန
- သမ္မတရုံးဝန်ကြီးဌာန(၃)
- ရုံးလက်ခံ/မျှောစာတွဲ

လျှို့ဝှက်

ပဲခူးတိုင်းဒေသကြီး [illegible]
ပဲခူးမြို့
စာအမှတ်၊ ၁၃/ ၁၃၅ - ၁ / ရေး ၁
ရက်စွဲ ၊ ၂၀၁၅ခုနှစ်၊ ဒီဇင်ဘာလ၂၃ ရက်

သို့

ဝန်ကြီးချုပ်
ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့
ပဲခူးမြို့

အကြောင်းအရာ။ ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့တွင် ဟံသာဝတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ ဆောင်ရွက်မည့်လုပ်ငန်းစီမံကိန်းများကိစ္စ

ပဲခူးတိုင်းဒေသကြီး၊ ပဲခူးမြို့၌ ဟံသာဝတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက်မှ အကောင်အထည်ဖော်ဆောင်ရွက်လျက်ရှိသည့်အောက်ဖော်ပြပါလုပ်ငန်းစီမံကိန်းများအား ပဲခူးတိုင်းဒေသကြီးလွှတ်တော်၌ (၁၆. ၁၂. ၂၀၁၅)ရက်နေ့တွင် ကြားနာ ဆောင်ရွက်ခဲ့ပြီး [illegible]ကြားနာမှုအား(၂၂. ၁၂. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပထမအကြိမ်ပဲခူးတိုင်းဒေသကြီးလွှတ်တော် (၁၃)ကြိမ်မြောက်ပုံမှန်အစည်းအဝေး၊ (ပဥ္စမနေ့)တွင် သဘောတူမှတ်တမ်းတင်ပြီး [illegible]ကြောင်း အကြောင်းပြန်ကြားအပ်ပါသည်

(က) ပဲခူးမြို့နယ်၊ အင်းတကော်မြို့၊ ကောခွဲကျေးရွာရှိ မြေဧရိယာဧက(၂၁၁)တွင် ဆောင်ရွက်မည့် စက်မှုဥယျာဉ်စီမံကိန်း
(ခ) ပဲခူးမြို့နယ်၊ အင်းတကော်မြို့ရှိ မြေဧရိယာဧက(၃၀၀၀)တွင် ဆောင်ရွက်မည့် ဟံသာဝတီဂေဟာဝန်းကျင် အဆင့်မြင့် အိမ်ရာစီမံကိန်း
(ဂ) ပဲခူးမြို့နယ်၊ ရန်ကုန်-ပဲခူး အမှတ်(၁)လမ်းမကြီး အရှေ့ဘက်နှင့် ဟံသာဝတီ အပြည်ပြည်ဆိုင်ရာလေဆိပ်အနီး မြေဧရိယာ (၆၀၅)ဧကတွင် ဆောင်ရွက်မည့် စက်မှုဥယျာဉ်နှင့် ဂေဟာဝန်းကျင် အဆင့်မြင့်အိမ်ရာစီမံကိန်း
(ဃ) ပဲခူးမြို့နယ်၊ ရပ်ကွက်(၉)၊ မြို့ပြဖွံ့ဖြိုးရေးစီမံကိန်း၊ နယ်မြေ(၁)ရှိ မြေဧရိယာ (၂၆၆. ၂၅)ဧကတွင် ဆောင်ရွက်မည့် ဟံသာဝတီအဆင့်မြင့် အိမ်ရာစီမံကိန်း

ဉက္ကဋ္ဌ (ကိုယ်စား)
ဝင်းမြင့်စိုး၊ ဒုတိယဉက္ကဋ္ဌ

မိတ္တူကို
ဟံသာဝတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်
ယက်ခံစာတွဲ/လှည့်လည်စာတွဲ